ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပုံစံ (မနသ-၂)
အမှတ်
ရက်စွဲ ၅.၁.၂၀၁၆
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၁၄/၂၀၁၆။ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၅ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်ခင်သီနွယ်

(ခ) **အဘအမည်** ဦးတိုးလှိုင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၈ /တတက (နိုင်) ၀၀၇၇၂၇

(ဃ) **နေရပ်လိပ်စာ** အမှတ် - ၇၂၊ အခန်းအမှတ် -၂၀၃ ၊ ဦးဝိစာရလမ်းနှင့် ချင်းတွင်းလမ်းထောင့်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** ABM Company Limited (အေဘီအမ် ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မွန်ပြည်နယ်၊ကျိုက်ထိုမြို့နယ်၊ကျိုက်ထီးရိုးတောရိုင်းတိရစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ (၁.၉) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၁၀၄၉.၂၀ သန်း (စုစုပေါင်း ကျပ် တစ်ထောင့်လေးဆယ့်ကိုးသန်းနှင့် နှစ်သိန်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၃ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ကနဦး ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၁ /၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၅ ရက်

၁။ ABM Company Limited(အေဘီအမ်ကုမ္ပဏီလီမိတက်)သည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုးဘေးမဲ့တောဧရိယာအတွင်းရှိ မြေ (၁.၉) ဧက တွင် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်နေ့ တွင် ကျင်းပသော ကော်မရှင်၏ (၂၀/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "**ခွင့်ပြုမိန့်ထုတ်ပေးရန်**" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင် ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၁၁၄/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန် တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှနုတ်ပယ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများတင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို** **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ ABM Company Limited (အေဘီအမ် ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ အတည်ပြုပြီး ဖြစ်သောပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် ချုပ်ဆိုမည့် နှစ်ရှည် မြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ နှစ်ရှည်မြေငှားရမ်းခြင်း သဘောတူ စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး နှစ် (၅၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ (၁၀)နှစ်သက်တမ်း(၂)ကြိမ်ဖြစ်သည်။ ထိုသို့စာချုပ်သက်တမ်း ကာလတိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ ABM Company Limited(အေဘီအမ်ကုမ္ပဏီလီမိတက်)သည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနသို့ Land Use Premium ကြေးအဖြစ် မြေ တစ်ဧကလျှင် ကျပ်၁၀၀၀၀၀ (ကျပ်တစ်သိန်း) နှုန်းဖြင့် မြေ (၁.၉)ဧကအတွက် စုစုပေါင်း ကျပ် ၁၉၀၀၀၀ (ကျပ်တစ်သိန်းကိုးသောင်းတိတိ) ကို နေပြည်တော်မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာန အမည်ဖြင့် ဖွင့်လှစ် ထားသော ငွေစာရင်းအမှတ်သို့ ပေးသွင်းရမည်။

၉။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် နှစ်စဉ် မြေငှားရမ်းခ အဖြစ် တစ်ဧကလျှင် ကျပ် ၁၀၀၀၀၀ နှုန်းဖြင့် စုစုပေါင်း ဧရိယာ (၁.၉) ဧက အတွက် ကျပ် ၁၉၀၀၀၀ (ကျပ် တစ်သိန်းကိုးသောင်းတိတိ)ကို စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း(၆၀) အတွင်း ကြိုတင်၍ ပေးသွင်းရမည်။

၁၀။ မြေငှားရမ်းခကို (၅)နှစ်လျှင် တစ်ကြိမ် ပြန်လည်ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည် ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက်ညှိနှိုင်း၍ စာချုပ်ပါ ငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်ရမည်။

၁၁။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် ဟိုတယ်တည်ဆောက်ခြင်း လုပ်ငန်းများကို နှစ်ရှည်မြေငှားရမ်းခြင်း သဘောတူ စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ မြေပြင်ပြုပြင်ကာလ ၆ လနှင့် ဟိုတယ်တည်ဆောက်ရေးကာလ ၃၆ လ စုစုပေါင်း ၄၂ လ အတွင်း ပြီးစီးအောင်တည်ဆောက်ဖွင့်လှစ်ရမည်။

၁၂။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် ABM Company Limited (အေဘီအမ်ကုမ္ပဏီ လီမိတက်)တို့ ချုပ်ဆိုမည့် နှစ်ရှည်မြေငှားရမ်းခြင်း စာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၁၃။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် ဟိုတယ် အဆောက်အအုံ ပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်းလိုင်စင်ရရှိရေးအတွက် ဟိုတယ်နှင့်ခရီးသွားလာရေး

လုပ်ငန်း ဝန်ကြီးဌာနသို့ လျှောက်ထားရမည်။ ထို့ပြင် ဟိုတယ်တည်ဆောက်ရေး လုပ်ငန်းများနှင့် စပ်လျဉ်း၍ ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ ကြီးကြပ်မှုကို ခံယူရမည်။

၁၄။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် နှစ်ရှည် မြေငှားရမ်းခြင်း သဘောတူစာချုပ် သက်တမ်း ကာလအတွင်း ထိုလုပ်ငန်း အတွက်အခြား ပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၆။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့်ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာ ဆောင်ရွက်ရမည်။

၁၇။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၈။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက် ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြား ချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏

စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၁။ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်း မပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာမှ စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက်သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ် ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၄ / မ-၁၄၈၁ / ၂၀၁၆( ဝ၇၆ -၁၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၅ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

မန်နေဂျင်းဒါရိုက်တာ၊ ABM Company Limited (အေဘီအမ်ကုမ္ပဏီလီမိတက်)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၄ /မ - ၁၄၈၁/၂၀၁၅(၉၁၉ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **ABM Company Limited မှ မွန်ပြည်နယ်၊ကျိုက်ထိုမြို့နယ်၊ကျိုက်ထီးရိုး တောရိုင်း တိရိစ္ဆာန်ဘေးမဲ့တော၊သဘာဝနယ်မြေတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းအား ခွင့်ပြုမိန့်ထုတ်ပေးပါရန် တင်ပြခြင်း ကိစ္စ**

၁။ ABM Company Limited သည် မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုး တောရိုင်း တိရိစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ (၁.၉)ဧက တွင် Mountain Top Hotel အမည်ဖြင့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူ ဒေါ်ခင်သီနွယ်(အဘ-ဦးတိုးလှိုင်)မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာ ဝန်ကြီးဌာနမှတစ်ဆင့် တင်ပြခြင်းကို ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပသည့် ကော်မရှင်၏ (၁၆/၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) ဟိုတယ်တည်ဆောက်ခြင်းနှင့် စပ်လျဉ်း၍ ဘူမိသိပ္ပံပညာရှင်ဖြင့် မြေစမ်းသပ်ခြင်းဆိုင်ရာ ဆောင်ရွက်၍ စမ်းသပ်စစ်ဆေးတွေ့ရှိချက်များ ပြန်လည်တင်ပြရန်။

(ခ) မြေငှားရမ်းခနှုန်းထား ဆီလျော်မှု ရှိ-မရှိ သက်ဆိုင်ရာဌာနနှင့် ပြန်လည်ညှိနှိုင်းရန်။

၂။ ယင်းအစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ အောက်ပါအတိုင်း ပြန်လည်တင်ပြလာပါသည်- **နောက်ဆက်တွဲ (က)**

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်နှင့်ပတ်သက်၍ ABM Co., Ltd. မှ ပြုစု၍ တင်ပြလာသည့် ဘူမိသိပ္ပံပညာဖြင့် မြေစမ်းသပ်ခြင်းဆိုင်ရာ စစ်ဆေးတွေ့ရှိချက် (Subsurface Soil Investigation Report) စာအုပ် ပေးပို့ထားပါကြောင်း။

(ခ) မြေငှားရမ်းခ နှုန်းထားနှင့်စပ်လျဉ်း၍ ကျိုက်ထိုမြို့နယ်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ ဒေသပေါက်ဈေးနှုန်း လုပ်ငန်းအဆိုပြုလွှာပါ မြေငှားရမ်းခ တစ်ဧကလျှင် ကျပ် ၁၀၀၀၀၀ နှုန်း နှင့် မြေငှားရမ်းခ ပရိမိယံကြေး တစ်ဧကလျှင် ကျပ် ၃၀၀၀၀၀ နှုန်း သည်

ဆီလျော်မှု ရှိပါကြောင်းနှင့် ကျိုက်ထိုမြို့နယ်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ မြေငှား ရမ်းခ အတည်ပြုလွှာတို့အား ပူးတွဲလျက် တင်ပြထားပါသည်။

၃။ ကုမ္ပဏီမှ GEO-FRIENDS Engineering & Construction Co., Ltd. အား Third Party အဖြစ်ရေးဆွဲပြီး Subsurface Soil Investigation Report စာအုပ်ပါ အဓိကအချက် အကြံပေးချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်- **နောက်ဆက်တွဲ (ခ)**

(က) Borehole တစ်ခုချင်းစီ၏ ကွင်းဆင်းစစ်ဆေးချက် (Field SPT N-value)ရရှိထားသော မြေသား Sample များအား ဓါတ်ခွဲစမ်းသပ်ချက်နှင့် တွက်ချက်မှုအရ မြေသားအခြေအနေမှာ ကောင်းမွန်သည်ဟု သတ်မှတ်၍ ရပါကြောင်း။

(ခ) Structural Engineer မှ Shallow footing အသုံးပြုမည်ဆိုလျှင် တည်ဆောက်မည့် အဆောက်အဦ၏ လိုအပ်သည့် Bearing Capacity နှင့်ကိုက်ညီနိုင်သော Foundation အနက်အလိုက် သင့်တော်မည့် Bearing Capacity ရအောင် ရွေးချယ်သင့်ကြောင်း။

(ဂ) Safety Point of View အရ depth အလိုက် ရရှိနိုင်သော minimum allowable bearing capacity တန်ဖိုးကိုသာ အသုံးပြုသင့်ပါကြောင်း။

(ဃ) တည်ဆောက်မည့် အဆောက်အဦအား ငလျင်အန္တရာယ် ကာကွယ်နိုင်ရန်အတွက်လည်း Structural Engineer မှ ထည့်သွင်း စဥ်းစားသင့်ပါကြောင်း။

(င) Modified Mercali (MM) scale 7.5 ဖြင့် အဆောက်အဦဒီဇိုင်း ဆွဲသင့်ကြောင်း။

**စိစစ်တင်ပြချက်**

၄။ (က) ကုမ္ပဏီမှ GEO-FRIENDS Engineering & Construction Co., Ltd. မှ အကြံပြုချက်များအတိုင်း အဆောက်အအုံများအား တည်ဆောက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) ၂၀၁၂ ခုနှစ် မေလ (၁၅) ရက်နေ့တွင် ကျင်းပသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၇/၂၀၁၂) ကြိမ်မြောက် အစည်းအဝေး မှ ကုမ္ပဏီသို့ မြေငှားရမ်းခွင့်ပြုခဲ့ခြင်း ဖြစ်ပါသည်။

(ဂ) GEO-FRIENDS Engineering & Construction Co., Ltd. မှ ရေးဆွဲသည့် Subsurface Soil Investigation Report အရ ဟိုတယ်တည်ဆောက်မည့် မြေသား Sample များအား ဓါတ်ခွဲစမ်းသပ်ချက်နှင့် တွက်ချက်မှုအရ မြေသားအခြေအနေမှာ ကောင်းမွန်သည်ဟု သတ်မှတ်၍ ရကြောင်းတင်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

(ဃ) အဆိုပြုလုပ်ငန်း၏ဆောက်လုပ်မည့်အဆောက်အဦများအတွက် တည်ဆောက်ရေးလုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှတင်သွင်းခြင်း မရှိကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၅။ ABM Company Limited သည် မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုးတောရိုင်း တိရိစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းတွင် ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆို ပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

Mg-1100
12/11

စာအမှတ် ၃(၂)/၁၆(ဃ)(၃/၆)/(၃၀၇၇ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ နိုဝင်ဘာလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ABM Company Limited မှ ကျိုက်ထီးရိုး တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော ၊ သဘာဝနယ်မြေအတွင်းရှိ ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ (၁) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ (၁၄ - ၅ - ၂၀၁၅) ရက်စွဲပါစာအမှတ် ၊ ၂/၂၃၀(ခ)(၃) (၄၀၃/၂၀၁၅)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁ - ၉ - ၂၀၁၅ ရက်စွဲပါစာ အမှတ် ၊ ရက - ၄ / မ - ၁၄၈၁ / ၂၀၁၅ ( ၇၄၂ )

၁။ ABM Company Limited သည် မွန်ပြည်နယ်၊ကျိုက်ထိုမြို့နယ်၊ကျိုက်ထီးရိုးသဘာဝကြိုးဝိုင်းအတွင်းရှိ မြေ(၁.၉) ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဒေါ်ခင်သီနွယ် ( အဘ-ဦးတိုးလှိုင် )မှ အဆိုပြုချက် တင်ပြစာပေါ်တွင် ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပ ပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆ /၂၀၁၅) ကြိမ်မြောက် အစည်းအဝေး " **ဟိုတယ်တည်ဆောက်ခြင်းနှင့် စပ်လျဥ်း၍ ဘူမိသိပ္ပံပညာရှင်ဖြင့် မြေစမ်းသပ်ခြင်းဆိုင်ရာဆောင်ရွက်၍ စမ်းသပ်စစ်ဆေးတွေ့ရှိချက်များ ပြန်လည်တင်ပြရန်နှင့် မြေငှားရမ်းခနှုန်းထားဆီလျော်မှု ရှိ - မရှိ သက်ဆိုင်ရာဌာန နှင့် ပြန်လည်ညှိနှိုင်းရန်** " ဆုံးဖြတ်ခဲ့ပါကြောင်း နှင့်အဆိုပါဆုံးဖြတ်ချက် နှင့်အညီ ကော်မရှင်သို့ ပြန်လည်တင်ပြပေးရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဆုံးဖြတ်ချက် နှင့်ပတ်သက်၍ ABM Company Limited မှ ပြုစုတင်ပြလာသည့် ဘူမိသိပ္ပံပညာဖြင့် မြေစမ်းသပ်ခြင်းဆိုင်ရာ စစ်ဆေးတွေ့ရှိချက် ( SUBSURFACE SOIL INVESTIGATION REPORT ) စာအုပ် နှင့် မြေငှားရမ်းခနှုန်းထား နှင့်စပ်လျဥ်း၍ ကျိုက်ထိုမြို့နယ်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ဒေသပေါက်ဈေးနှုန်းလုပ်ငန်း အဆိုပြုလွှာပါ မြေငှားရမ်းခ တစ်ဧကတစ်နှစ်လျှင် ကျပ် (၁၀၀,၀၀၀/-)(ကျပ်တစ်သိန်း

တိတိ ) နှင့် မြေငှားရမ်းခ ပရီမီယံကြေး တစ်ဧက ကျပ် ( ၃၀၀,၀၀၀/- ) (ကျပ်သုံးသိန်းတိတိ) နှုန်းသည် ဆီလျော်မှု ရှိပါကြောင်း ကျိုက်ထိုမြို့နယ် ၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ မြေငှားရမ်းခအတည်ပြုလွှာတို့အား ပူးတွဲလျက် ပြန်လည်တင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွှန့် ၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
<u>သစ်တောဦးစီးဌာန</u>

မြို့ နယ် အုပ် ချုပ် ရေး မှူး ရုံး
( အ ထွေ ထွေ အုပ် ချုပ် ရေး ဦး စီး ဌာ န )
ကျိုက်ထိုမြို့နယ် - ကျိုက်ထိုမြို့
စာအမှတ်၊ ၅ / ၂ - ၃ / ဦး ၁
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ အောက်တိုဘာလ ၂ ရက်

၂၅၄၉

သို့

ညွှန်ကြားရေးမှူး
ဦးစီးအရာရှိ
မြို့နယ်သစ်တောဦးစီးဌာန
ကျိုက်ထိုမြို့

| စာအမှတ် - 1298 / စ(ဂ)၁ | စာရင်းဝင် | အချိန် |
|---|---|---|
| ရက်စွဲ - 2 - 10 - 2015 | 2 - 10 - 15 | 18:00 |

အကြောင်းအရာ။ **မြေငှားရမ်းခ သတ်မှတ်ပေးရန်ကိစ္စ**

ရည် ညွှန်း ချက်။ ဦးစီးအရာရှိရုံး၊သစ်တောဦးစီးဌာန၊ကျိုက်ထိုမြို့နယ်၏ (၁၂. ၉. ၂၀၁၅)ရက်စွဲပါစာအမှတ် ၁၀၈၆/စ(ဂ)၁

၁။ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုးတောင်တက်ကားလမ်းမိုင်တိုင် အမှတ် ၊ ၂ မိုင် ၄ ဖာလုံ အနီးရှိ မြေ(၁)ဧကခန့်အား တောင်တက်စစ်ဆေးရေးဂိတ်စခန်းပြုလုပ်ရန် ကျိုက်ထီးရိုးတောင်တက် မော်တော်ယာဉ်အသင်းမှ လျှောက်ထားချက်အပေါ် ကျိုက်ထိုမြို့နယ်အတွင်း မြေ (၁)ဧက ငှားရမ်းခဒေသပေါက်ဈေးနှင့် မြေငှားခပရီမီယမ် ကြေးအား အတည်ပြုပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် တောင်းခံလာပါသည်။

၂။ သို့ဖြစ်ပါ၍ ကျိုက်ထိုမြို့နယ်အတွင်း မြေ(၁)ဧကလျှင် တစ်နှစ်အတွက် မြေငှားရမ်းခ ဒေသပေါက်ဈေး ငွေ ( ၁၀၀၀၀၀ိ/-) (ကျပ်တစ်သိန်း တိတိ)နှင့် မြေငှားရမ်းခ ပရီမီယမ်ကြေးငွေ ( ၃၀၀၀၀၀ိ/-) (ကျပ်သုံးသိန်းတိတိ) အတည်ပြုကြောင်း ပြန်ကြားပါသည်။

မြို့နယ်အုပ်ချုပ်ရေးမှူး
( မျိုးအောင်၊ ပ/၃၈၆၁ )

မိတ္တူကို

ဥက္ကဌ၊ တောင်တက်မော်တော်ယာဉ်အသင်း၊ကျိုက်ထိုမြို့နယ်
ရုံးလက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ-ခ

**GEO-FRIENDS** Engineering & Construction Co., Ltd.
1136 (B), Thumingalar Road, 6 Block , South-Okkalapa Township, Yangon, MYANMAR.
Tel : 01 561431, 09 420107757, 09 420107767
E-mail : service@geo-friends.com Website : www.geo-friends.com

ISO 9001:2008 Cert. No. 718350

စာအမှတ် -GF/Doc-0806-2015

နေ့စွဲ - 19.11.2015

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ ။ Mountain Top Hotel (ABM Co., Ltd) အတွက် Geo-Friends ကုမ္ပဏီမှ ဆောင်ရွက်ပြီး ပေးပို့ထားသော Soil Investigation Report အနှစ်ချုပ်အား တင်ပြခြင်း။

ရည်ညွှန်း ။ ။ Report No – GEO-RPT-03815
Report Date - 31st OCTOBER 2015

အထက်ပါ အကြောင်းအရာနှင့် ပတ်သတ်၍ Soil Investigation Report အနှစ်ချုပ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

- Borehole တစ်ခုချင်းစီ၏ ကွင်းဆင်းစမ်းသပ်ချက် (Field SPT N-value) ရရှိထားသော မြေသား sample များအား ဓါတ်ခွဲစမ်းသပ်ချက်နှင့် တွက်ချက်မှုအရ soil အခြေအနေမှာ ကောင်းမွန်သည်ဟု သတ်မှတ်၍ ရပါသည်။

- Structural Engineer မှ shallow footing အသုံးပြုမည်ဆိုလျှင် တည်ဆောက်မည့် အဆောက်အဦး၏ လိုအပ်သည့် Bearing Capacity နှင့်ကိုက်ညီနိုင်သော Foundation အနက်အလိုက် သင့်တော်မည့် Bearing Capacity ရအောင် ရွေးချယ်သင့်ပါသည်။

- Safety point of view အရ depth အလိုက် ရရှိနိုင်သော minimum allowable bearing capacity တန်ဖိုးကိုသာ အသုံးပြုသင့်ပါသည်။ (အောက်တွင် ဇယားဖြင့် minimum allowable bearing capacity တန်ဖိုးအား ဖော်ပြထားပါသည်။

Table - Estimated, average and minimum allowable bearing capacity

| Depth (m) | BH-1 (kN/m$^2$) | BH-2 (kN/m$^2$) | BH-3 (kN/m$^2$) | BH-4 (kN/m$^2$) | BH-5 (kN/m$^2$) | BH-6 (kN/m$^2$) | BH-7 (kN/m$^2$) | BH-8 (kN/m$^2$) | BH-9 (kN/m$^2$) | BH-10 (kN/m$^2$) | BH-11 (kN/m$^2$) | BH-12 (kN/m$^2$) | Average allowable bearing capacity (kN/m$^2$) | Minimum allowable bearing capacity (kN/m$^2$) | Minimum allowable bearing capacity (ton/ft$^2$) |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 | 0 |
| 1.5 | 77 | 73 | 72 | 70 | 69 | 58 | 108 | 67 | 54 | 76 | 62 | 76 | 72 | 54 | 0.54 |
| 3 | 483 | 233 | 144 | 140 | 223 | 144 | 156 | 278 | 153 | 224 | 241 | 243 | 222 | 140 | 1.40 |
| 4.5 | 1,173 | 243 | 268 | 262 | 414 | 420 | 1,094 | 629 | 165 | 528 | 353 | 585 | 511 | 165 | 1.65 |
| 6 | 1,564 | 1,456 | 307 | 342 | 431 | 700 | 542 | 686 | 1,102 | 995 | 980 | 1,426 | 878 | 307 | 3.07 |

- တည်ဆောက်မည့် အဆောက်အဦးအား ငလျင်အန္တရာယ် ကာကွယ်နိုင်ရန်အတွက်လည်း Structural Engineer မှ ထည့်သွင်း စဉ်းစားသင့်ပါသည်။ Modified Mercali (MM) scale 7.5 ဖြင့် အဆောက်အဦး design ဆွဲသင့်ကြောင်း အကြံပြုပေးအပ်ပါသည်။

လေးစားစွာဖြင့်

19/11/2015

ဦးဇာနည်ဝင်း

General Manager (Chief Geologist)

Geo-Friends Co., Ltd

Zar Ni Wynn
General Manager
B.Sc, DAG, M.Sc (Geology)
Geo-Friends Engineering & Construction Co., Ltd.

# *A B M COMPANY LIMITED*

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် - ၀၉၁/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ နိုဝင်ဘာလ(၂၀)ရက်

အကြောင်းအရာ။ ။ Soil Investigation Report အနှစ်ချုပ်နှင့်အညီ လုပ်ဆောင်သွားမည်အကြောင်း တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ Geo-Friends Engineering & Construction Co. Ltd. ၏ (၁၉-၁၁-၂၀၁၅)ရက်နေ့စွဲပါ စာအမှတ် - GF/Doc-0806-2015

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ A B M Company Limited သည် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်ရာတွင် ရည်ညွှန်းချက်စာပါ Geo-Friends Engineering & Construction မှ Soil Investigation Report အနှစ်ချုပ်၏ အကြံပြုချက်များနှင့်အညီ လုပ်ဆောင်သွားမည်ဖြစ်ပါကြောင်း လေးစားစွာဖြင့် အသိပေးအကြောင်းကြားအပ်ပါသည်။

လေးစားစွာဖြင့်

LWIN MAR OO
DIRECTOR
ABM COMPANY LIMITED.

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

ABM Co., Ltd. မှ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန်
ကော်မရှင်အစည်းအဝေးသို့တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၅-၅-၂၀၁၅ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) မွန်ပြည်နယ်အစိုးရအဖွဲ့ | ၂၆-၅-၂၀၁၅ | ၁၂-၆-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၆-၅-၂၀၁၅ | ၂၀-၆-၂၀၁၅ | |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန | ၂၆-၅-၂၀၁၅ | ၅-၆-၂၀၁၅ | |
| ၃။ | PAT အစည်းအဝေး (၁၈/၂၀၁၅) (၁-၆-၂၀၁၅)သို့ တင်ပြခြင်း | ၁-၆-၂၀၁၅ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၉-၆-၂၀၁၅ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက် နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပေးပို့ခြင်း | ၅-၈-၂၀၁၅ | | |
| ၇။ | ကုမ္ပဏီမှအဆိုပြုလွှာ(၇)စုံ ပြန်လည်ပေးပို့ခြင်း PAT အစည်းအဝေးဆုံးဖြတ် ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်း | ၁၃-၈-၂၀၁၅ | | |
| ၈။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | ၁၆/၂၀၁၅ | | |
| ၉။ | **စုစုပေါင်းကြာမြင့်ရက်** | **(၇၇) ရက်** | | |

ကုမ္ပဏီအမည် - ABM Company Limited
အဖွဲ့အစည်းပုံသဏ္ဌာန် - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်။)
လုပ်ငန်းအမျိုးအစား - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း
တည်နေရာ - မွန်ပြည်နယ် ၊ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုး တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ ၁.၉ ဧက
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၁၀၄၉.၂၀ သန်း
လုပ်ငန်းသက်တမ်း - (၅၀) နှစ်
အရင်းကြေကာလ - (၃) နှစ် (၁) လ
IRR - ၁၃ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀(၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | |
| ၄ | ဝင်ငွေခွန် | ၂၃၆.၉၅ | ၅၃၈.၀၆ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၇၃၁.၀၈ |
| ၆ | မြေငှားရမ်းခ/ ပရီမီယံကြေး | | ၁.၁၄ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၂၅၇.၄၉ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၄၉.၄၁ |
| ၈ | CSR (၃%) | | ၄၈.၂၇ |
| | | | ပြည်တွင်းဝန်ထမ်း (၉၅)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၂၆၆.၉၅ | ၁၆၂၆.၆၂ |
| | Cost : Benefit | ၁ : ၆ | |

## ABM Company Limited မှ Mountain Top Hotel အမည်ဖြင့် ဟိုတယ် တည်ဆောက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်နှင့် စပ်လျဥ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ABM Company Limited |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်ခင်သီနွယ် (အဘ-ဦးတိုးလှိုင်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ / မြေ အကျယ်အဝန်း | - ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန ၊ သစ်တောဦးစီးဌာနပိုင်၊မွန်ပြည်နယ်၊ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုးတောရိုင်းတိရစ္ဆာန် ဘေးမဲ့တော၊သဘာဝနယ်မြေအတွင်း ရှိ မြေ (၁.၉)ဧက |
| ၅။ | | |

ကျပ်(သန်း)

| | မူလ | တိုးချဲ့ | စုစုပေါင်း |
|---|---|---|---|
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၄၉၉.၂၀** | **၅၅၀.၀၀** | **၁၀၄၉.၂၀** |
| - ငွေပမာဏ | | ၅၀.၀၀ | ၅၀.၀၀ |
| - စက်ပစ္စည်းကိရိယာများတန်ဖိုး | ၇၃.၁၄ | ၇၆.၉၀ | ၁၅၀.၀၄ |
| - အဆောက်အဦတန်ဖိုး | ၃၅၀.၉၁ | ၃၄၀.၆၀ | ၆၉၀.၅၁ |
| - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုးပမာဏ (နိုင်ငံခြားမှတင်သွင်းမည့် စက်ပစ္စည်း၊ ကုန်ကြမ်းပစ္စည်း မရှိပါ) | ၇၅.၁၅ | ၈၂.၅၀ | ၁၅၇.၆၅ |

| | | |
|---|---|---|
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - စာချုပ်မူကြမ်းတွင် ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀) နှစ်(၂)ကြိမ် ဖြစ်ပါသည်။ |
| ၇။ | မြေငှားရမ်းခနှုန်းထား | - ၁နှစ် ၁ဧကလျှင် ကျပ် ၁၀၀၀၀၀ နှုန်း ဖြင့် မြေ(၁.၉) ဧက အတွက် ကျပ် ၁၉၀,၀၀၀ |
| | မြေအသုံးချမှုပရီမီယံကြေး | - တစ်ဧကလျှင် ကျပ် ၁၀၀,၀၀၀ နှုန်းဖြင့် စုစုပေါင်း မြေ(၁.၉) ဧက အတွက် ကျပ် ၁၉၀,၀၀၀ |
| | ဘဏ်အာမခံရရှိငွေ | - တစ်နှစ်ငှားရမ်းခ ကျပ် ၁၉၀၀၀၀ ကို ဘဏ်အာမခံအဖြစ် ထားရှိရမည်ဖြစ်ပါသည်။ |
| ၈။ | တည်ဆောက်ရေးကာလ | - ၃၆ လ (တည်ဆောက်မှုစမည့်အချိန် - ကော်မရှင် ခွင့်ပြုပြီး ၆ လ) |
| | မြေပြင်ပြုပြင်ကာလ | - ၆ လ အတွင်း (ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီး) |
| ၉။ | ဝန်ဆောင်မှု(၆)နှစ် မြောက် ဟိုတယ်လုပ်ငန်း | |

| စဥ် | အမျိုးအစား | ဝန်ဆောင်မှုပေးမည့်အခန်း | ဝန်ဆောင်ခနှုန်း US$ | ဝန်ဆောင်ခနှုန်း ကျပ် |
|---|---|---|---|---|
| (က) | Deluxe Type | ၁၀၀ (၅၀+၅၀) | ၈၅ | ၈၅၀၀၀ |
| | Occupancy rate for 35 % | | | |

| | | |
|---|---|---|
| ၁၀။ | ဝင်ငွေ ( ၆ နှစ် မြောက် ) | - ကျပ် ၁၃၅၇.၃၄ သန်း |

| | | |
|---|---|---|
| ၁၁။ | အသားတင်အမြတ် (၆ နှစ်မြောက်) | - ကျပ် ၂၄၅.၈၆ သန်း |
| ၁၂။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>- ကျပ် ၈၁.၉၆ သန်း<br>- ကျပ် ၆၇.၈၇ သန်း |
| ၁၃။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br>ပြည်ပ | - ၉၈ ဦး<br>၉၅ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ ကျပ် ၃၅၀,၀၀၀ ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀၀၀၀ ဖြစ်ပါသည်။)<br>၃ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ US$ ၂၀၀၀ ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။) |
| ၁၄။ | အရင်းကြေကာလ | - ၃ နှစ်၊ ၁ လ |
| ၁၅။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၃ % |
| ၁၆။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထားအဖြစ် ဒါရိုက်တာ ဒေါ်ခင်သီနွယ်၊ ဒေါ်လွင်မာဦး အမည်ဖြင့် KBZ Bank (ကမာရွတ်ဘဏ်ခွဲ) တွင် (၃-၄-၂၀၁၅)နေ့စွဲရှိ ငွေလက်ကျန် ကျပ် ၁၁၁,၉၉၄,၅၄၀.၈၆၊ CB Bank တွင် (၃-၄-၂၀၁၅) နေ့စွဲရှိ ငွေလက်ကျန် ကျပ် ၁၀၃,၀၂၈,၅၁၈ နှင့် ပထမပုဂ္ဂလိကဘဏ် လီမိတက် တွင် ABM Co., Ltd. အမည်ဖြင့် (၂-၄-၂၀၁၅) နေ့စွဲရှိ ငွေ လက်ကျန် ကျပ် ၆၄၀၃၆၉၁၃.၆၉ ရှိကြောင်း တင်ပြထားသည့် အတွက် သုံးစွဲမည့် ကျပ်ငွေ ၅၅၀.၀၀ သန်းအတွက် ၅၀.၇၄ % ရှိကြောင်း တွေ့ရှိရပါသည်။<br>- နိုင်ငံခြားငွေ အထောက်အထားအဖြစ် KBZ Bank (ကမာရွတ်ဘဏ်ခွဲ) တွင် (၃၁-၃-၂၀၁၅) နေ့စွဲရှိ ငွေလက်ကျန် US$ ၁၀၇၄၄၉.၇၈ ရှိကြောင်း တင်ပြထားပါ သည်။ |
| ၁၇။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ တင်ပြချက်များ | - ဟိုတယ် တည်ဆောက်လုပ်ကိုင်ရန်အတွက် ဤဝန်ကြီးဌာန၏ (၁၅-၅-၂၀၁၂) ရက်နေ့တွင် ကျင်းပသော (၇/၂၀၁၂) ကြိမ်မြောက် စီမံခန့်ခွဲမှုကော်မတီ၏ အစည်းအဝေး ဆုံးဖြတ်ချက်အရ ABM Company Limited သို့ Mountain Top Hotel ဆောက်လုပ်ထားသော ၁.၉ ဧကအား လုပ်ထုံးလုပ်နည်းနှင့်အညီ မြေငှားစာချုပ် ချုပ်ဆို ဆောင်ရွက်ရန် ခွင့်ပြုခဲ့ခြင်းဖြစ်ပါကြောင်း။<br>- လုပ်ငန်းဆောင်ရွက်မည့်ဧရိယာသည် ကျိုက်ထီးရိုး သဘာဝ တောရိုင်းနယ်မြေအတွင်း ကျရောက်သော်လည်း ဌာန ပိုင်စိုက်ခင်းနှင့် လုပ်ငန်း များအတွင်း ကျရောက်မှု မရှိခြင်း၊ ဟိုတယ် အဆောက်အဦများ အခိုင်အမာ ဆောက်လုပ်ထားခြင်း၊ ဘုရားဖူး ဧည့်သည် |

| | | |
|---|---|---|
| | | ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားထားခြင်း တို့ကြောင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုနိုင်ရန် စာချုပ်မူကြမ်းအား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ ဥပဒေရှုထောင့်မှ စိစစ်အကြံပြုချက်များနှင့်အညီပြင်ဆင်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ လုပ်ငန်း ခွင့်ပြုမိန့်ရရှိပါက စာချုပ်ချုပ်ဆိုဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။<br>- မြေငှားရမ်းခြင်းအတွက် သဘာဝပတ်ဝန်းကျင် ထိခိုက်မှု မရှိနိုင်ပါကြောင်း။ |
| ၁၈။ | အခြားတင်ပြချက်များ | (က)ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာန၊ သစ်တောဦးစီးဌာန နှင့် ABM Company Limited တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် နှင့်အညီ ချုပ်ဆိုမည့်နှစ်ရှည် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) ငှားရမ်း လုပ်ကိုင်ခွင့်ပြုသည့် သက်တမ်းကာလမှာ နှစ် (၅၀) ဖြစ်ပြီး သက်တမ်းတိုးခြင်းအား နောက်ထပ် (၁၀) နှစ် (၂)ကြိမ် သက်တမ်း တိုးခွင့်ရှိသည်။ **အပိုဒ် ၇ (၁)**<br>(၂) မြေအသုံးချမှု ပရီမီယံကြေးအား တစ်ဧကလျှင် ကျပ် ၁၀၀,၀၀၀ နှုန်းဖြင့် မြေ (၁.၉) ဧက အတွက် ကျပ် ၁၉၀၀၀၀ ကို "အငှားချထားသူ" သို့ စာချုပ်လက်မှတ် ရေးထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးသွင်းရမည်။ **အပိုဒ် ၉ (၁)**<br>(၃) မြေ ငှားရမ်းခမှာ တစ်နှစ်လျှင် တစ်ဧက ကျပ် ၁၀၀၀၀၀ နှုန်း ဖြင့် အငှားချထားသည့် မြေ (၁.၉)ဧက အတွက် ကျပ်(၁၉၀၀၀၀)တိတိကို စာချုပ်လက်မှတ် ရေးထိုးပြီးသည့် နေ့မှစ၍ ရက်ပေါင်း ၆၀ အတွင်းပေး သွင်းရမည်။ **အပိုဒ် ၁၀ (၁)**<br>(၄) ငှားရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည် ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည် ချုပ်ဆိုသည့် အခါ ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက် ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါ ငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြန်လည်ပြင်ဆင် သတ်မှတ်သွားမည် ဖြစ်ပါသည်။ **အပိုဒ် ၁၀ (၂)**<br>(၅) အငှားချထားခြင်းခံရယူမှု လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံအဖြစ် တစ်နှစ်အတွက်ငှားရမ်းခဖြစ်သော ကျပ် (၁.၉)သိန်း ကို နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာန အမည်ဖြင့် ဖွင့်လှစ်ထားသောငွေ စာရင်းအမှတ် MD-010613 တွင် ဘဏ်အာမခံ ထားရှိပေးရမည်။ ၎င်းငွေကို စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း ၃၀ အတွင်းပေးသွင်းရမည်။ ငှားရမ်းကာလ ပြီးဆုံးသည့် |

| | | |
|---|---|---|
| | | ပေးရမည်။ ၄င်းငွေကို စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း ၃၀ အတွင်းပေးသွင်းရမည်။ ငှားရမ်းကာလ ပြီးဆုံးသည့် အချိန်တွင် ပြန်လည်ထုတ်ယူနိုင်ပါသည်။ **အပိုဒ် ၂၄ (ခ)** |
| ၁၉။ | ကော်မရှင် ရုံးအဖွဲ့မှ စိစစ် တင်ပြချက် | (က) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မွန်ပြည်နယ်အစိုးရအဖွဲ့၊ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့မှ ထောက်ခံတင်ပြထားပါသည်။<br>(ခ) ၂၀၁၂ ခုနှစ် မေလ (၁၅) ရက်နေ့တွင် ကျင်းပသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၇/၂၀၁၂)ကြိမ်မြောက် အစည်းအဝေးမှ ကုမ္ပဏီသို့ မြေငှားရမ်းခွင့်ပြုခဲ့ခြင်း ဖြစ်ပါသည်။<br>(ဂ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ထပ်မံ တိုးချဲ့ဆောက်လုပ်မည့် အဆောက်အဦများအတွက် တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပမှတင်သွင်းခြင်း မရှိကြောင်း တွေ့ရှိရပါသည်။<br>(ဃ) တည်ဆောက်ရေးကာလအတွင်း အဆိုပြုလုပ်ငန်းမှ ရရှိမည့် ဝင်ငွေများအပေါ် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။<br>(င) ABM Company Limited မှ ပြည်တွင်းအခွန်များဦးစီးဌာနသို့ ၂၀၁၃-၂၀၁၄ စီးကြပ်နှစ်အထိ ကျသင့်သည့် အခွန်များကို ထမ်းဆောင်ပြီး ဖြစ်ကြောင်း နှင့် ၂၀၁၄-၂၀၁၅ ခုနှစ် စီးကြပ်နှစ်အတွက် ကျသင့်သည့် အခွန်များကို မြန်မာ့စီးပွားရေးဘဏ်ခွဲ (၁) သို့ ပေးသွင်းပြီးဖြစ်ကြောင်း ငွေသွင်းချလံများ တင်ပြ ထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/မ-၁၄၈၁/၂၀၁၅/( ၆၆၅ )
ရက်စွဲ ၊ ၂၀၁၅ခုနှစ် စက်တင်ဘာလ ၂ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **ABM Company Limited မှ ကျိုက်ထီးရိုး တောရိုင်းတိရစ္ဆာန် ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ ABM Company Limited သည် မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုး တောရိုင်းတိရစ္ဆာန် ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ (၁.၉)ဧက တွင် Mountain Top Hotel အမည်ဖြင့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီး မြှုပ်နှံသူ ဒေါ်ခင်သီန္တယ် (အဘ-ဦးတိုးလှိုင်)မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှတစ်ဆင့် တင်ပြခြင်းကို ၂၀၁၅ ခုနှစ် ဇွန်လ ၁ ရက်နေ့တွင် ကျင်းပ ပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေး အဖွဲ့၏ (၁၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန နှင့် ABM Company Limited တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် နှစ်ရှည်မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)ပါ အဓိကအချက်များ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ငှားရမ်း လုပ်ကိုင်ခွင့်ပြုသည့် သက်တမ်းကာလမှာ နှစ် (၅၀) ဖြစ်ပြီး သက်တမ်းတိုး ခြင်းအား နောက်ထပ် (၁၀) နှစ် (၂)ကြိမ် သက်တမ်း တိုးခွင့်ရှိသည်။ **အပိုဒ် ၇ (၁)**

(ခ) မြေအသုံးချမှု ပရီမီယံကြေးအား တစ်ဧကလျှင် ကျပ် ၁၀၀,၀၀၀ နှုန်းဖြင့် မြေ (၁.၉) ဧက အတွက် ကျပ် ၁၉၀၀၀၀ ကို "အငှားချထားသူ" သို့ စာချုပ်လက်မှတ်ရေး ထိုးပြီး ရက်ပေါင်း ၃၀ အတွင်း ပေးသွင်းရမည်။ **အပိုဒ် ၉ (၁)**

(ဂ) မြေ ငှားရမ်းခမှာ တစ်နှစ်လျှင် တစ်ဧက ကျပ် ၁၀၀၀၀၀ နှုန်း ဖြင့် အငှားချ ထားသည့် မြေ (၁.၉)ဧက အတွက် ကျပ်(၁၉၀၀၀၀)တိတိကို စာချုပ်လက်မှတ် ရေးထိုးပြီး သည့် နေ့မှစ၍ ရက်ပေါင်း ၆၀ အတွင်းပေး သွင်းရမည်။ **အပိုဒ် ၁၀ (၁)**

(ဃ) ငှားရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည် ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည် ချုပ်ဆိုသည့် အခါ ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက် ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါ ငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြန်လည် ပြင်ဆင် သတ်မှတ်သွားမည် ဖြစ် ပါသည်။ **အပိုဒ် ၁၀ (၂)**

(င) အငှားချထားခြင်းခံရယူမှု လုပ်ငန်းဆောင်ရွက်မှု ဘဏ် အာမခံအဖြစ် တစ်နှစ်အတွက် ငှားရမ်းခဖြစ်သော ကျပ် (၁.၉)သိန်း ကို နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာန အမည်ဖြင့် ဖွင့်လှစ်ထားသောငွေ စာရင်းအမှတ် MD-010613 တွင် ဘဏ်အာမခံ ထားရှိ ပေးရမည်။ ၎င်းငွေကို စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း ၃၀ အတွင်းပေးသွင်းရမည်။ ငှားရမ်းကာလ ပြီးဆုံးသည့် အချိန်တွင် ပြန်လည်ထုတ်ယူနိုင်ပါသည်။ **အပိုဒ် ၂၄ (၁)**

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၅၀)နှစ်နှင့် နောက်ထပ် ၁၀ နှစ် ၂ ကြိမ် တိုးမြှင့်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၃)နှစ်ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ်သန်း ၁၀၄၉.၂၀ ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**ကျပ်(သန်း)**

| | | မူလ အခန်း(၅၀) | တိုးချဲ့ အခန်း(၅၀) | စုစုပေါင်း အခန်း(၁၀၀) |
|---|---|---|---|---|
| (က) | ငွေပမာဏ | - | ၅၀.၀၀ | ၅၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ | ၃၃.၁၄ | ၇၆.၉၀ | ၁၁၀.၀၄ |
| (ဂ) | အဆောက်အဦ တန်ဖိုး | ၃၅၀.၉၁ | ၃၄၀.၆၀ | ၆၉၁.၅၁ |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများတန်ဖိုး | ၇၅.၁၅ | ၈၂.၅၀ | ၁၅၇.၆၅ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ** | **၄၉၉.၂၀** | **၅၅၀.၀၀** | **၁၀၄၉.၂၀** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၉၅)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်း(၁)ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၅၀,၀၀၀ဖြစ်ပါသည်။ ပြည်ပမှ ဝန်ထမ်း (၃)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပ ဝန်ထမ်း(၁) ဦး၏ အမြင့်ဆုံးလစာမှာ US$ ၂၀၀၀ ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ဝန်ဆောင်မှုပေးမည့် အခန်း | ဝန်ဆောင်ခနှုန်း | |
|---|---|---|---|---|
| | | | US$ | ကျပ် |
| (က) | Deluxe Type | ၁၀၀ (၅၀+၅၀) | ၈၅ | ၈၅၀၀၀ |
| | Occupancy rate for 35 % | | | |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဥ် | အကြောင်းအရာ | ကျပ်ငွေ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၆၃၆.၀၉ |
| (ခ) | အသုံးစရိတ် | ၁၃၈၁.၆၃ |
| (ဂ) | အသားတင်အမြတ် | ၂၅၄.၄၆ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၆၇.၈၇ သန်းနှင့် ဝင်ငွေခွန် ကျပ် ၈၁.၉၆ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ(၃)နှစ်(၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၃ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဥ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း။

(၂) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်မှုမရှိပါကြောင်း။

(၃) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူပြုပါကြောင်း။

(၄) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း။

(၅) ABM Company Limited မှ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားမှုနှင့်ပတ်သက်၍ ဒေသခံများက လူမှုရေး၊စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုအရ လက်ခံနိုင်ခြင်းရှိပါသဖြင့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ကိုင်ဆောင်ရွက် ခွင့်ပြုမည်ဆိုပါက မွန်ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) ဟိုတယ်တည်ဆောက်လုပ်ကိုင်ရန်အတွက် ၎င်းဝန်ကြီးဌာန၏ (၁၅-၅-၂၀၁၂) ရက်နေ့တွင် ကျင်းပသော (၇/၂၀၁၂) ကြိမ်မြောက် စီမံခန့်ခွဲမှုကော်မတီမှ ဆုံးဖြတ်ချက်အရ ABM Company Limited သို့ Mountain Top Hotel

ဆောက်လုပ် ထားသော (၁.၉)ဧကအား လုပ်ထုံးလုပ်နည်းနှင့်အညီ မြေငှားစာချုပ် ချုပ်ဆို ဆောင်ရွက်ရန် ခွင့်ပြုခဲ့ခြင်းဖြစ်ပါကြောင်း။

(၂) လုပ်ငန်းဆောင်ရွက်မည့်ဧရိယာသည် ကျိုက်ထီးရိုးသဘာဝတောရိုင်းအတွင်း ကျရောက်သော်လည်း ဌာနပိုင်စိုက်ခင်းနှင့် လုပ်ငန်းများအတွင်း ကျရောက်မှု မရှိခြင်း၊ ဟိုတယ်အဆောက်အဦများ အခိုင်အမာ ဆောက်လုပ်ထားခြင်း၊ ဘုရားဖူးဧည့်သည်များအတွက် အကျိုးရှိသည့်အပြင် မွန်ပြည်နယ်အစိုးရအဖွဲ့နှင့် ကျိုက်ထီးရိုးစေတီတော် ဘဏ္ဍာတော်ထိန်း ဂေါပကအဖွဲ့မှ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားထားခြင်းတို့ကြောင့် မြေငှားရမ်းခြင်းစာချုပ် ချုပ်ဆိုနိုင်ရန် စာချုပ်မူကြမ်းအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ဥပဒေရှုထောင့်မှ စိစစ်အကြံပြုချက်များနှင့်အညီ ပြင်ဆင်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ငန်းခွင့်ပြုမိန့်ရရှိပါက စာချုပ်ချုပ်ဆိုဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။

(၃) မြေငှားရမ်းခြင်းအတွက် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိနိုင်ပါကြောင်း။

(၄) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက် ရေးဆွဲခြင်း၊ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း အဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများ အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများနှင့် ဝန်ထမ်းများ၊ အလုပ်သမားများအတွက် ဟိုတယ်လုပ်ငန်း လည်ပတ်မှုမှရရှိမည့် ခန့်မှန်းထားသည့် အသားတင်အမြတ်ငွေမှ ၃ % အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင် အထည်ဖော်ဆောင်ရွက်ရန်။

(၅) အဆိုပြုလုပ်ငန်းသည် ကျိုက်ထီးရိုး တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော နယ်မြေအတွင်း လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်သဖြင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination-IEE) ဆောင်ရွက်ရန်နှင့် လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရန်။

(၆) ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စောင့်ကြပ်ကြည့်ရှု စစ်ဆေးသည့် စနစ်များ၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေနှင့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း အစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan

-EMP)များ ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင် အထည်ဖော် ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး လေ့လာ ခြင်း (Initial Environmental Examination- IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုစီမံချက် EMP အစီရင်ခံစာတို့အား E Guard Environmental Services Co., Ltd. မှ Third Party အနေဖြင့် ဆောင်ရွက်၍ ရေးဆွဲရန်ညှိနှိုင်းနေပါကြောင်း (၅-၈-၂၀၁၅) ရက်စွဲပါစာဖြင့် တင်ပြထားပါ သည်။)**

(ဂ) **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) ABM Company Limited မှ ငှားရမ်းမည့် အခန်းနှုန်းထားတွင် Deluxe ၁ ခန်းလျှင် အမေရိကန်ဒေါ်လာ ၇၅ မြန်မာကျပ်ငွေအနေနှင့် ၇၀၀၀၀ ကျပ်နှုန်း ဖြင့် ဖော်ပြထားသဖြင့် ငှားရမ်းခနှုန်းထားနှင့် အသုံးပြုမည့်ပစ္စည်းများ ပေးအပ် မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါကြောင်း။

(၂) ABM Company Limited မှဆောင်ရွက်မည့် Mountain Top Hotel သည် မူလက အခန်း ၃၆ ခန်းဖြင့် လိုင်စင်ရယူဆောင်ရွက်လျှက်ရှိပြီး ယခုအခန်း ၁၀၀ အထိ တိုးချဲ့တည်ဆောက်မည်ဖြစ်ခြင်းကြောင့် ဆက်လက်တိုးချဲ့တည်ဆောက် မည့် အခန်းများနှင့် အဆောက်အဦများအတွက် ပြည်ပမှတင်သွင်းမည့် တည် ဆောက်ရေးပစ္စည်းများအပေါ် အခွန်သက်သာခွင့်မှာ ကော်မရှင်၏အဆုံးအ ဖြတ်သာ ရယူရမည်ဖြစ်ပါကြောင်း။

(၃) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေး ဥပဒေနှင့်အညီ ထပ်မံတိုးချဲ့သည့် အခန်းများအတွက် ဟိုတယ်လုပ်ငန်း ဆောင် ရွက်ခွင့်ပြုမိန့်ကို ဤဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထား ရယူသွားရန် လိုအပ်မည် ဖြစ်ပါကြောင်း။

၁၀။ ကျပ်ငွေ အထောက်အထားအဖြစ် ဒါရိုက်တာ ဒေါ်ခင်သီနွယ်၊ ဒေါ်လွင်မာဦး အမည်ဖြင့် KBZ Bank (ကမာရွတ်ဘဏ်ခွဲ) တွင် (၃-၄-၂၀၁၅)နေ့စွဲရှိ ငွေလက်ကျန် ကျပ် ၁၁၁,၉၉၄,၅၄၀.၈၆၊ CB Bank တွင် (၃-၄-၂၀၁၅) နေ့စွဲရှိ ငွေလက်ကျန် ကျပ် ၁၀၃,၀၂၈,၅၁၈ နှင့် ပထမပုဂ္ဂလိက ဘဏ် လီမိတက် တွင် ABM Co., Ltd. အမည်ဖြင့် (၂-၄-၂၀၁၅) နေ့စွဲရှိ ငွေ လက်ကျန် ကျပ် ၆၄၀၃၆၉၁၃.၆၉ ရှိကြောင်း တင်ပြထားသည့်အတွက် သုံးစွဲမည့် ကျပ်ငွေ ၅၅၀.၀၀ သန်းအတွက် ၅၀.၇၄ % ရှိကြောင်း တွေ့ရှိရပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် KBZ Bank (ကမာရွတ် ဘဏ်ခွဲ) တွင် (၁၀-၃-၂၀၁၅) နေ့စွဲရှိ ငွေလက်ကျန် US$ ၁၀၇၄၄၉.၇၈ ရှိကြောင်း တင်ပြထားပါ သည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင် မှု မရှိပါကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ အမျိုးသမီး(၃) ဦးပေါင်းစပ်ဖွဲ့စည်းထားသည့်

လုပ်ငန်းဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင် ကာကွယ်မှုများအနေဖြင့် ဟိုတယ်ဝင်းအတွင်း အရေးပေါ်သုံးစွဲနိုင်ရန် သင့်တင့်သော အကျယ်အဝန်းရှိသည့် ရေကန်များထားရှိခြင်း၊ အဆောင်တိုင်းတွင် မီးသတ်ဗူး တစ်ဗူး စီထားရှိခြင်း၊ သဲပုံး၊ ရေပုံး၊ မီးချိတ်၊ မီးကဒ်နှင့် အချက်ပေးသံချောင်းတို့အား စနစ်တကျ ထားရှိခြင်း၊ ဟိုတယ်မှ ထွက်ရှိလာသော အမှိုက်စိုများကို မြေအောက်ကန်ဆောက်၍ လည်းကောင်း၊ အမှိုက်ခြောက်များကို မီးရှို့စက်ထားရှိ၍လည်းကောင်း စနစ်တကျလုပ်ဆောင်မည်ဖြစ်ပြီး မီးသတ် ဦးစီးဌာနမှပို့ချသော သင်တန်းများကို ဝန်ထမ်းများအား အလှည့်ကျစေလွှတ်၍ တက်ရောက်စေမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ ဝန်ထမ်းများသက်သာချောင်ချိရေးအနေဖြင့် ဟိုတယ်ဝန်ထမ်းများအတွက် အိပ်ဆောင်များ စီစဥ်ထားရှိခြင်း၊ နံနက်စာ၊နေ့လည်စာနှင့် ညစာ ထမင်း(၃)နပ်လုံးစီစဥ်ပေးခြင်း၊ နားနေချိန်တွင် သက်တောင့်သက်သာရှိစေရန် နားနေခန်းပြုလုပ်ပေးခြင်း၊ ဟိုတယ်လုပ်ငန်းသို့ စတင်ဝင်ရောက် လုပ်ကိုင်သူများအတွက် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းဆိုင်ရာသင်တန်းများအား ဟိုတယ်၏ အစီအစဥ်ဖြင့် သင်တန်းပို့ချပေးခြင်း၊ ရှေးဦးသူနာပြုသေတ္တာစီစဥ်ထားရှိခြင်း၊ နာမကျန်းသူများနှင့် ထိခိုက်ဒဏ်ရာ ရရှိသူများအား လူမှုဖူလုံရေးဆေးခန်းသို့စေလွှတ်၍ ဆေးဝါးကုသမှုခံယူစေခြင်း၊ လူမှုဖူလုံရေးထည့်ဝင်ငွေများအားလည်း အလုပ်ရှင်အပိုင်းရော၊ အလုပ်သမားအပိုင်းပါ ထည့်ဝင်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့် စပ်လျဥ်း၍ ၁၆၀ KVA ဖြင့် အသုံးပြုမည် ဖြစ်ကြောင်း နှင့် လျှပ်စစ်ဓါတ်အားမရရှိသည့်အချိန်တွင် ကိုယ်ပိုင် Generator ဖြင့် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ CSR (Corporate Social Responsibility) အတွက် Net Profit ၏ ၃ % ကို သုံးစွဲရန် လျာထားပါကြောင်း တင်ပြထားပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) ၂၀၁၂ ခုနှစ် မေလ (၁၅) ရက်နေ့တွင် ကျင်းပသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၇/၂၀၁၂) ကြိမ်မြောက် အစည်းအဝေး မှ ကုမ္ပဏီသို့ မြေငှားရမ်းခွင့်ပြုခဲ့ခြင်း ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ ထပ်မံ တိုးချဲ့ဆောက်လုပ်မည့် အဆောက်အဦများ အတွက် တည်ဆောက်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှတင်သွင်းခြင်း မရှိကြောင်း တွေ့ရှိရပါသည်။

(ဂ) တည်ဆောက်ရေးကာလအတွင်း အဆိုပြုလုပ်ငန်းမှ ရရှိမည့် ဝင်ငွေများအပေါ် ဝင်ငွေခွန်ပေးဆောင်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

(ဃ) ABM Company Limited မှ ပြည်တွင်းအခွန်များဦးစီးဌာနသို့၂၀၁၃-၂၀၁၄ စီးကြပ်နှစ်အထိ ကျသင့်သည့် အခွန်များ ကို ထမ်းဆောင်ပြီး ဖြစ်ကြောင်း နှင့် ၂၀၁၄-၂၀၁၅

ခုနှစ်၊ စီးကြပ်နှစ်အတွက် ကျသင့်သည့် အခွန်များကို မြန်မာ့စီးပွား ရေးဘဏ်ခွဲ (၁) သို့ ပေးသွင်းပြီးဖြစ်ကြောင်း ငွေသွင်းချလံများ တင်ပြထားပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ(က၊ဂ၊စ၊ဆ၊ဇ၊ည)အရ အခွန် အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ABM Company Limited သည် မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုးတောရိုင်း တိရစ္ဆာန် ဘေးမဲ့တော သဘာဝနယ်မြေအတွင်းတွင် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်

စာအမှတ် ၊ ၃၀၀ / ၁ - ၃၂/ ၀ခရ (မွန်)

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ [illegible] ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၂၆-၅-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၈၁/ ၂၀၁၅ (၄၁၁၈)

၁။ မွန်ပြည်နယ်၊ကျိုက်ထိုမြို့နယ် ၊ ကျိုက်ထီးရိုးသဘာဝကြိုးဝိုင်းအတွင်းရှိ မြေဧရိယာ (၁. ၉ )ဧကတွင် **ABM Company Limited** မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ခင်သီနွယ် မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန မှ တဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပြီး ၊ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း(၃)အပိုဒ်(၁၀)ပါ ပြဋ္ဌာန်းချက်နှင့်အညီအဆိုပြုချက်ကို ကော်မရှင်ကစိစစ်ရာတွင် သက်ဆိုင်ရာပြည်နယ်/တိုင်းဒေသကြီး အစိုးရ၏ သဘောထားများကို ရယူရန်လိုအပ်ကြောင်း ၊ သက်ဆိုင်ရာဝန်ကြီးချုပ်ကိုယ်တိုင်စိစစ်ထောက်ခံ ပေးနိုင်ပါရန် အောက်ပါ သဘောထားမှတ်ချက်နှင့်အဟူရက်သတ္တပတ် တစ်ပတ်အတွင်းပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းပေးပို့လာပါသည် -

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည်နှောင့်ယှက်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း **(မရှိပါ)**

( ခ) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်မှု **(မရှိပါ)**

( ဂ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ **(ဖြစ်ပါသည်)**

(ဃ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း **(ရှိပါသည်)**

( င) ပြည်နယ်အစိုးရအဖွဲ့၏ အကြံပြုချက်အနေဖြင့် **(ကန့်ကွက်ရန်မရှိပါ)**

၂။ ထို့ပြင်ပါ၍ ABM Company Limited မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းနှင့် ပတ်သက်၍ နေထိုင် မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိခြင်း ၊ ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်မှု မရှိခြင်း ၊ မြို့နယ် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက် မှုကို အထောက်အကူဖြစ်ခြင်း ၊ ဒေသခံများမှ လူမှုရေး ၊ စီးပွားရေး ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်သည့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း (၁) ခုဖြစ်သည့်အတွက် ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း နှင့် ဆောင်ရွက်သင့်သောလုပ်ငန်းတစ်ခုဖြစ်ကြောင်း အကြံပြုပြန်ကြားပါသည်။

ဦးအုန်းမြင့်
ပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး ၊ နေပြည်တော်

ABM Company Limited

ရုံးလက်ခံစာတွဲ

နောက်ဆက်တွဲ (ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၊ ၃(၂)/၁၁(ဃ)(ဖ)/(၉၉၀/၂၀၁၅)
ရက်စွဲ ၊၂၀၁၅ ခုနှစ် ၊ ဇွန်လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆ - ၅ - ၂၀၁၅ ရက်စွဲပါစာ အမှတ် ၊ ရက - ၄ / မ - ၁၄၈၁ / ၂၀၁၅ ( ၄၁၁ - ခ )
(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ၁၄ - ၅ - ၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ၂ / ၂၂၀ (ခ) (၃) ( ၄၀၃ / ၂၀၁၅ )

၁။ ABM Company Limited သည် မွန်ပြည်နယ် ၊ ကျိုက်ထိုမြို့နယ် ၊ ကျိုက်ထီးရိုးတောရိုင်းတိရစ္ဆာန်ဘေးမဲ့တောနယ်မြေအတွင်းရှိ မြေ ( ၁.၉ ) ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပါဟိုတယ်တည်ဆောက်ရန်အတွက် ဤပြည်ထောင်စုဝန်ကြီးဌာန၏ (၁၅-၅-၂၀၁၂) ရက်နေ့တွင် ကျင်းပပြုလုပ်သော ( ၇ / ၂၀၁၂ ) ကြိမ်မြောက် စီမံခန့်ခွဲမှုကော်မတီမှ ဆုံးဖြတ်ချက်အရ ABM Company Limited သို့ Mountain Top Hotel ဆောက်လုပ်ထားသော ( ၁.၉ ) ဧကအား လုပ်ထုံးလုပ်နည်း နှင့် အညီ မြေငှားစာချုပ် ချုပ်ဆိုဆောင်ရွက်ရန် ခွင့်ပြုခဲ့ပြီး ဖြစ်ခြင်း၊ လုပ်ငန်းဆောင်ရွက်မည့် ဧရိယာသည် ကျိုက်ထီးရိုး သဘာဝတောရိုင်းအတွင်း ကျရောက်သော်လည်း ဌာနပိုင်စိုက်ခင်း နှင့် လုပ်ငန်းများအတွင်း ကျရောက်မှုမရှိခြင်း ၊ ဟိုတယ်အဆောက်အဦများ အခိုင်အမာ ဆောက်လုပ်ထားခြင်း ၊ ဘုရားဖူးဧည့်သည်များအတွက် အကျိုးရှိသည့်အပြင် မွန်ပြည်နယ် အစိုးရအဖွဲ့ နှင့် ကျိုက်ထီးရိုးစေတီတော် ဘဏ္ဍာတော်ထိန်း ဂေါပကအဖွဲ့မှ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားထားခြင်းတို့ကြောင့် မြေငှားရမ်းခြင်းစာချုပ် ချုပ်ဆိုနိုင်ရန် စာချုပ်မူကြမ်းအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ဥပဒေ ရှုထောင့်မှ စိစစ်အကြံပြုချက်များ နှင့် အညီ ပြင်ဆင်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ငန်းခွင့်ပြုမိန့် ရရှိပါက စာချုပ် ချုပ်ဆို ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် ထိုသို့ မြေငှားရမ်းခြင်းအတွက် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိနိုင်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြေသားများပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာမည့် အမှုန်အမွှားများ ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက် နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း ၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု ၊ လေထု ၊ မြေထု ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်သည့်အပြင် ကျိုက်ထီးရိုး တောရိုင်းတိရစ္ဆာန်ဘေးမဲ့တောဧရိယာအတွင်း ကျရောက်ခြင်းကြောင့် ဇီဝမျိုးစုံမျိုးကွဲ များအား ထိခိုက်မှုဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ABM Company Limited မှ ကျိုက်ထီးရိုးသဘာဝကြိုးဝိုင်းအတွင်းရှိ မြေ ( ၁.၉ ) ဧကတွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်ရေးဆွဲခြင်း ၊ ဆောက်လုပ်ခြင်း နှင့် လုပ်ငန်းလည်ပတ်ခြင်း အဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များ နှင့် စက်ကိရိယာများ အသုံးပြုရန် နှင့် အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများ နှင့် ဝန်ထမ်းများ ၊ အလုပ်သမားများအတွက် ဟိုတယ်လုပ်ငန်း လည်ပတ်မှုမှရရှိမည့် ခန့်မှန်းထားသည့်အသားတင်အမြတ်ငွေမှ (၃ %)အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းသည် ကျိုက်ထီးရိုး တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော နယ်မြေအပြင်း လုပ်ကိုင်ဆောင်ရွက်သွားမည် ဖြစ်သဖြင့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး ( သို့မဟုတ် ) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination - IEE ) ဆောင်ရွက်ရန် နှင့် လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA ) ဆောင်ရွက်ရန် ၊

(ဂ) ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စောင့်ကြပ်ကြည့်ရှုစစ်ဆေးသည့် စနစ်များ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေ နှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း အစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင်

စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP ) များ ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) သတ်မှတ်ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူများ၏ ဆန္ဒ နှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၈ ၀ (အုပ်ချုပ်မှု) / နပတ/ ၁၉၂၆
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီ လ ၅ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၂၆-၅-၂၀၁၅ ) ရက်စွဲပါ စာအမှတ် ရက -၄/မ-၁၄၈၀/၂၀၁၅ (၄၁၁-၈)

၁။ ABM Company Limited သည် မွန်ပြည်နယ်၊ကျိုက်ထိုမြို့နယ်၊ကျိုက်ထီးရိုးသဘာဝကြိုးဝိုင်းအတွင်းရှိမြေ(၁.၉)ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူဒေါ်ခင်သီနွယ်(အဘ-ဦးတိုးလှိုင်)မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှတဆင့် အဆိုပြုချက်တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ ယခုတင်ပြလာသော ABM Company Limited သည် မွန်ပြည်နယ်၊ကျိုက်ထိုမြို့နယ်တွင် Mountain Top Hotel အမည်ဖြင့် အခန်း(၃၆) ခန်းပါ ဟိုတယ်အား ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှုဦးစီးဌာန၏ ခွင့်ပြုလိုင်စင်အမှတ် ဟ-၀၅၃၉ ဖြင့် ဟိုတယ်လုပ်ငန်းများကို (၁၁-၇-၂၀၀၆) ရက်နေ့မှစတင်၍ ဆောင်ရွက်လျက်ရှိပြီး ယခုအခါတွင် အဆိုပါမြေပရဝဏ်အတွင်း ဟိုတယ်များထပ်မံတိုးချဲ့တည်ဆောက်ရန်အတွက် ၎င်းမြေကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ တရားဝင်ငှားရမ်းဆောင်ရွက်မည်ဖြစ်ပါ၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ သို့ပါ၍ ဝန်ကြီးဌာနအနေနှင့် ဝန်ဆောင်ခနှုန်းထားများ၊ ဟိုတယ်လုပ်ငန်းဆိုင်ရာများနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ABM Company Limited မှဌားရမ်းမည့် အခန်းနှုန်းထားတွင် Deluxe (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၇၅) မြန်မာငွေကျပ်အနေနှင့် (၇၀၀၀၀)ကျပ်နှုန်း ဖြင့်ဖော်ပြထားသဖြင့် ဌားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ် မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါသည်။

(ခ) ABM Company Limited မှဆောင်ရွက်သည့် Mountain Top Hotel သည် မူလ က အခန်း(၃၆) ခန်းဖြင့်လိုင်စင်ရယူဆောင်ရွက်လျက်ရှိပြီး၊ ယခုအခန်း (၁၀၀)အထိ တိုးချဲ့တည်ဆောက်မည်ဖြစ်ခြင်းကြောင့် ဆက်လက်တိုးချဲ့တည်ဆောက်မည့် အခန်း များနှင့်အဆောက်အဦများအတွက် ပြည်ပမှတင်သွင်းမည့် တည်ဆောက်ရေးပစ္စည်းများ အပေါ်အခွန်သက်သာခွင့်မှာကော်မရှင်၏ အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့် အညီထပ်မံတိုးချဲ့သည့် အခန်းများအတွက် ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်ကို ဤဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထားရယူသွားရန် လိုအပ်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ဒေါက်တာစိုင်းကျော်အုန်း၊ဒုတိယဝန်ကြီး)

မိတ္တူကို

ရုံးလက်ခံ

မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၃)( ၄၀၃ /၂၀၁၅)

ရက်စွဲ ၂၀၁၅ ခုနှစ်၊ မေလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>ကျိုက်ထီးရိုးတောရိုင်းတိရစ္ဆာန်ဘေးမဲ့တောသဘာဝနယ်မြေအတွင်း၊ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန် မြေငှားရမ်းခြင်းအတွက် နှစ်ရှည်မြေငှားစာချုပ်ချုပ်ဆိုရန်တင်ပြခြင်းကိစ္စ။</u>

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ ၂၀၁၂ ခု မေလ ( ၁၅ ) ရက်နေ့တွင် ကျင်းပပြုလုပ်သည့်( ၇/ ၂၀၁၂ )ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ မွန်ပြည်နယ် ၊ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုးသဘာဝကြိုးဝိုင်းအတွင်း ကျရောက်သည့် ABM Company Limited ပိုင် Mountain Top Hotel ဆောက်လုပ်ထားမြေ ( ၁.၉ ) ဧကသည် ဌာနပိုင် စိုက်ခင်း/ လုပ်ငန်းများအတွင်းကျရောက်မှုမရှိခြင်း၊ သက်ဆိုင်ရာဝန်ကြီးဌာန၏ လုပ်ငန်းခွင့်ပြုမိန့်ရှိခြင်း ၊ ဟိုတယ်အဆောက်အဦများ အခိုင်အမာဆောက်လုပ်ထားခြင်း၊ ဘုရားဖူးဧည့်သည်များအတွက် အကျိုးရှိခြင်းများအတွက်ကြောင့်မြေ (၁.၉) ဧကအား မြေငှားစာချုပ်ဖြင့် ငှားရမ်းဆောင်ရွက်ရန်ခွင့်ပြုခဲ့ပါသည်။

၂။ အဆိုပါ အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်း လုပ်ငန်းဆောင်ရွက်ရန် မြေငှားခွင့်ရရှိသည့် A B M Company Limited မှ မြေ ( ၁.၉ ) ဧကအား နှစ်ရှည်ငှားရမ်းခြင်းစာချုပ်ချုပ်ဆိုရန် စာချုပ်( မူကြမ်း )ပါအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ငှားရမ်းမည့်မြေ (၁.၉)ဧက

(ခ) ငှားရမ်းကာလ ကနဦး(၅၀) နှစ်နှင့် သက်တမ်းတိုးမြှင့်ခြင်း (၁၀) နှစ် သက်တမ်း ( ၂ ) ကြိမ်

<u>လှည့်ရန်</u>

D:\DTZA\CD\(13-5-2015).1doc.CD.docx

| | | |
|---|---|---|
| (ဂ) | မြေငှားခပရီမီယံကြေး | မြေတစ်ဧက ကျပ်၁၀၀၀၀၀ (ကျပ်တစ်သိန်းတိတိ) |
| (ဃ) | မြေငှားရမ်းခ | မြေတစ်ဧက တစ်နှစ်ကျပ် ၁၀၀၀၀၀ ကျပ်တစ်သိန်း တိတိ) |
| (င) | လုပ်ငန်းအဆိုပြုသူအမည် | ဒေါ်ခင်သီနွယ်၊ မန်နေးဂျင်းဒါရိုက်တာ |
| (စ) | လုပ်ငန်းအမျိုးအစား | အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်း |
| (ဆ) | ရင်းနှီးမြှုပ်နှံမှုတန်ဘိုး | မြန်မာငွေကျပ် သန်း ( ၅၀၀ ) (ကျပ်သန်းငါးရာ တိတိ) |
| (ဇ) | ကုမ္ပဏီအမည် | A B M Company Limited |
| (ဈ) | ဟိုတယ်အမည် | Mountain Top Hotel |

၃။ သို့ဖြစ်ပါ၍ A B M Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြမည့် လုပ်ငန်းအဆိုပြုချက်တင်ပြလွှာ၊ စာချုပ် (မူကြမ်း)၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုစာတို့ကို ဤစာနှင့်အတူပူးတွဲ တင်ပြအပ်ပါသည်။

(ပိုင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏

အဆိုပြုချက်

**Mountain Top Hotel**

(အေဘီအမ်ကုမ္ပဏီလီမိတက်)

ပုံစံ (မနသ–၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် – ၀၂၄/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

ကျွန်မတို့သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ –

| | | |
|---|---|---|
| (က) အမည် | – | ဒေါ်ခင်သီန္တယ် (ကုမ္ပဏီကိုယ်စား) |
| (ခ) အဖအမည် | – | ဦးတိုးလှိုင် |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | – | ၈/တတက(နိုင်)၀၀ရရ၂၇ |
| (ဃ) နေရပ်လိပ်စာ | – | ၇၂၊ ဦးဝိစာရလမ်း၊ အခန်း(၂၀၃)<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| (င) လူမျိုး၊ ဘာသာ | – | မြန်မာ၊ ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | – | Mountain Top Hotel (အေဘီအမ်ကုမ္ပဏီလီမိတက်) |
| (ဆ) လုပ်ငန်းအမျိုးအစား | – | ဟိုတယ်လုပ်ငန်း |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | – | ၇၂၊ ဦးဝိစာရလမ်း၊ အခန်း(၂၀၃)<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ – မရှိ

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား –

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း –

(ခ) ဝန်ဆောင်မှုလုပ်ငန်း – ဟိုတယ်လုပ်ငန်း

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ –

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း – မရှိ

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း – မရှိ

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း – မရှိ

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဌာန် –

(က) တစ်ဦးတည်းပိုင် –

(ခ) ဖက်စပ်/အစုစပ် လုပ်ငန်း –

(ဂ) လီမိတက်ကုမ္ပဏီ – အေဘီအမ်ကုမ္ပဏီလီမိတက် – နောက်ဆက်တွဲဇယား (က)
ABM Company Limited

(ဃ) သမဝါယမအသင်း –

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက –

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ – မရှိ

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား – မရှိ

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ – မရှိ

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီ ဖြစ်ပါက

(က) ခွင့်ပြုမတည်ငွေရင်း – ကျပ် ၅၀၀,၀၀၀,၀၀၀/– (ကျပ်သန်းငါးရာတိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား – သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ – တစ်စုလျှင်ကျပ်တစ်သောင်းတန် အစုရှယ်ယာ (၅၀,၀၀၀)

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ –

(က) မတည်ငွေရင်းပမာဏ

| | ကျပ်ငွေ (ထောင်ပေါင်း) ယခင်အခန်း(၅၀) | ကျပ်ငွေ (ထောင်ပေါင်း) ယခုအခန်း(၅၀) | စုစုပေါင်းကျပ်ငွေ (ထောင်ပေါင်း) အခန်း(၁၀၀) |
|---|---|---|---|
| (၁) ငွေပမာဏ | – | ၅၀,၀၀၀ | ၅၀,၀၀၀ |
| (၂) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ | ၇၃,၁၄၂ | ၇၆,၉၀၀ | ၁၅၀,၀၄၂ |
| (၃) အဆောက်အအုံများ/မြေ | ၃၅၀,၉၁၂ | ၃၄၀,၆၀၀ | ၆၉၁,၅၁၂ |
| (၄) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများတန်ဖိုးပမာ | ၇၅,၁၄၆ | ၈၂,၅၀၀ | ၁၅၇,၆၄၆ |
| စုစုပေါင်း | ၄၉၉,၂၀၀ | ၅၅၀,၀၀၀ | ၁၀၄၉,၂၀၀ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည်

| | ကျပ်ငွေ | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ | – | – |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏ တန်ဖိုး | – | – |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | – | – |

(ဂ) တည်ဆောက်မှုကာလ – (၃) နှစ်

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ – မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီး (၆)လ အတွင်း

(င) တည်ဆောက်မှု စတင်မည့်အချိန် – မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီး (၆)လ

၉။ ဆောက်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ –

(က) လုပ်ငန်းအမျိုးအစား – ဟိုတယ်လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ – မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုးတောရိုင်း တိရိစ္ဆာဘေးမဲ့တောနယ်မြေ

(ဂ) ဆောင်ရွက်ပုံနည်းစနစ် – နှစ်ရှည်မြေငှားရမ်းခြင်း (ကနဦး(၅၀)နှစ် +(၁၀)နှစ်(၂)ကြိမ် ထပ်မံသက်တမ်းတိုးခွင့်)

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် –

| အမျိုးအစား | | အရေအတွက် |
|---|---|---|
| ၁။ ဒီဇယ်ဆီ | – | ၂၀၀၀ ဂါလံ |
| ၂။ ဓါတ်ဆီ | – | |
| ၃။ အင်ဂျင်ဝိုင် | – | ၂၀ ဂါလံ |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် –

| အားအသုံးပြုမှု | | မြင်းကောင်ရေ |
|---|---|---|
| ၁။ လျှပ်စစ်ဓာတ်အား | – | ၁၆၀ ကေဗွီအေ |
| ၂။ ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | – | ၁၀၀ ကေဗွီအေ |
| ၃။ ဘွိုင်လာအသုံးပြု အင်ဂျင်စက်အား | – | |
| ၄။ သဘာဝဓာတ်ငွေ့သုံးစက်အား | – | |
| ၅။ ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | | |

(စ) နှစ်စဉ်ရေလိုအပ်ချက် –

| | | |
|---|---|---|
| ၁။ တစ်နေ့ ရေလိုအပ်ချက် | – | ၅၀၀၀ ဂါလံ |
| ၂။ နှစ်စဉ် ရေလိုအပ်ချက် | – | ၁၈၂၅၀၀၀ ဂါလံ |

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက် –

(ဇ) အဆောက်အအုံ လိုအပ်ချက် – အခန်းတစ်ခန်းလျှင် ၁၂' x ၂၅' အကျယ်အဝန်းရှိသော အခန်းပေါင်း (၅၀)ခန်း

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် – ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် မြေ(၁.၉)ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ ဆောင်ရွက်မည့်ဝန်ဆောင်မှု –

(ဋ) ရောင်းချမည့်နည်းစနစ် – ဟိုတယ်ဝန်ဆောင်ခများကို မြန်မာနိုင်ငံသားများအား မြန်မာကျပ်ငွေဖြင့်လည်းကောင်း၊ နိုင်ငံခြားသားများအားအမေရိကန်ဒေါ်လာဖြင့်လည်းကောင်း ကောက်ခံမည်ဖြစ်ပါသည်။

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ –

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | – | နောက်ဆက်တွဲဇယား (၆) | |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | – | နောက်ဆက်တွဲဇယား (–) | |
| (ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | – | နောက်ဆက်တွဲဇယား (၁) | |
| (ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | – | နောက်ဆက်တွဲဇယား (–) | |
| (င) နှစ်စဉ် ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | – | နောက်ဆက်တွဲဇယား (–) | |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း – နောက်ဆက်တွဲဇယား (၅)

| | | |
|---|---|---|
| (က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ | – | ၉၅ ဦး |
| (ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ | – | ၃ ဦး |
| စုစုပေါင်း | – | ၉၈ ဦး |

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ –

| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) နှစ်စဉ် ဝင်ငွေရရှိမှု | – | နောက်ဆက်တွဲဇယား (၁) | |
| (ခ) နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | – | နောက်ဆက်တွဲဇယား (၂) | |
| (ဂ) နှစ်စဉ် အသားတင်အမြတ် | – | နောက်ဆက်တွဲဇယား (၂) | |
| (ဃ) နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | – | နောက်ဆက်တွဲဇယား (၈) | |
| (င) အရင်းကျေကာလ | – | နောက်ဆက်တွဲဇယား (၄) | |
| (စ) အခြားအကျိုးအမြတ်များ | – | နောက်ဆက်တွဲဇယား (–) | |
| (ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | – | အလုပ်အကိုင်သစ် (၉၈)နေရာပေါ်ပေါက်လာပါမည်။ | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့် စပ်လျဉ်းသည့်အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် မိတ္တူ

(ဃ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း မိတ္တူ

(င) Form (6), Form (26), Form (E)

(စ) ကျိုက်ထီးရိုးစေတီတော်ဘဏ္ဍာတော်ထိန်းဂေါပကအဖွဲ့၏ ကန့်ကွက်ရန်မရှိကြောင်းထောက်ခံစာ

(ဆ) မွန်ပြည်နယ်အစိုးရအဖွဲ့၏ ကန့်ကွက်ရန်မရှိကြောင်းထောက်ခံစာ

(ဇ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအတွက် လျှောက်လွှာ

(ဈ) လုပ်ငန်းအတွက် ကြိုတင်ပြင်ဆင်လုပ်ဆောင်ချက်များနှင့် ဝန်ခံကတိပြုချက်များ

လျှောက်ထားသူ

(signature)

(ဒေါ်ခင်သီနွယ်)

ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ

Mountain Top Hotel

(A B M Company Limited)

# *A B M COMPANY LIMITED*

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် - ၀၂၃/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်ချမှတ်ပေးပါရန် တင်ပြလျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ဧကပေါ်တွင် ကျိုက်ထီးရိုးဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်ချမှတ်ပေးပါရန် တင်ပြလျှောက်ထားအပ်ပါသည်။

၂။ သို့ဖြစ်ပါ၍ Mountain Top Hotel (A B M Company Limited) ၏ အဆိုပြုလွှာ(၁၅)စုံကို လိုအပ်သလိုဆောင်ရွက်ပေးနိုင်ရန်အတွက် ပူးတွဲပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဒေါ်ခင်သီနွယ်)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
Mountain Top Hotel
(A B M Company Limited)

မိတ္တူကို - ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ နေပြည်တော်
- ရုံးလက်ခံ

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်

စာအမှတ်၊ ၃၀၀ / ၁ - ၅ /၀ ခ ရ (မွန်)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ်လ ၂၅ ရက်

သို့

မန်နေးဂျင်းဒါရိုက်တာ

ABM Company Limited

အကြောင်းအရာ။ A B M Co., Ltd မှ နှစ်ရှည်မြေငှားစာချုပ်ချုပ်ဆိုနိုင်ရေး အတွက် စိစစ်တင်ပြရန်ကိစ္စ

ရည် ညွှန်း ချက်။ မန်နေးဂျင်းဒါရိုက်တာ ၊ A B M Co., Ltd ၏ (၁၁-၃-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၀ခရ / A B M /၂၀၁၅

မွန်ပြည်နယ် ၊ ကျိုက်ထိုမြို့နယ် ၊ ကျိုက်ထီးရိုးတောင်ပေါ်ရှိ A B M Co., Ltd ပိုင် Mountain Top Hotel သည် ၂၀၁၂ ခုနှစ် ၊ မေလ (၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန ၊ စီမံခန့်ခွဲမှုကော်မတီ၏ (၇/၂၀၁၂)ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ သစ်တောဦးစီးဌာန၏ လုပ်ထုံးလုပ်နည်း နှင့် အညီ မြေဧရိယာ (၁. ၉)ဧက ကို မြေငှါးစာချုပ်ဖြင့်ငှားရမ်းရန် သဘောတူပြီးဖြစ်ပါသည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန ၊ သစ်တောဦးစီးဌာနနှင့် Mountain Top Hotel (ABM Company Limited ) တို့ နှစ်ရှည်မြေငှား စာချုပ်ချုပ်ဆိုခြင်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန်အတွက် မွန်ပြည်နယ်အစိုးရအဖွဲ့ သဘောထားဖြင့်တင်ပြဆောင်ရွက်နိုင်ရေး ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်း နှင့် စပ်လျဉ်း၍ **မွန်ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်းပြန်ကြားပါသည်။**

ဝန်ကြီးချုပ်(ကိုယ်စား)

( ဇော်လင်းထွန်း ၊ အတွင်းရေးမှူး )

မိတ္တူကို

ဝန်ကြီး ၊ သစ်တော နှင့် သတ္တု ဝန်ကြီးဌာန ၊ မွန်ပြည်နယ်

ညွှန်ကြားရေးမှူး ၊ ပြည်နယ်သစ်တောဦးစီးဌာန ၊ မွန်ပြည်နယ်

ရုံးလက်ခံစာတွဲ / မျှောစာတွဲ

Forest (2) 182

ကျိုက်ထိုမြို့

ကျိုက်ထီးရိုးစေတီတော်ဘဏ္ဍာတော်ထိန်းဂေါပကအဖွဲ့

ကျိုက်ထိုမြို့

ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ မတ်( ၆ )ရက်

## ကန့်ကွက်ရန်မရှိကြောင်းထောက်ခံချက်

၁။ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုးတောင်ပေါ်ရှိ A B M Company Limited ပိုင် Mountain Top Hotel သည် ၂၀၁၂ခုနှစ်၊ မေလ(၁၅)ရက်နေ့တွင်ကျင်းပပြုလုပ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၇/၂၀၁၂)ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ သစ်တောဦးစီးဌာန၏ လုပ်ထုံးလုပ်နည်းနှင့်အညီ မြေ(၁.၉)ဧကကို မြေငှားစာချုပ်ဖြင့်ငှားရမ်းရန် သဘောတူညီချက်ရရှိပြီးဖြစ်ပါသည်။

၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန နှင့် Mountain Top Hotel (ABM Company Limited) တို့ နှစ်ရှည်မြေငှားစာချုပ်ချုပ်ဆိုခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန်အတွက် ထောက်ခံချက်တောင်းခံလာခြင်းအား ကျိုက်ထီးရိုးစေတီတော်ဘဏ္ဍာတော်ထိန်းဂေါပကအဖွဲ့မှ ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

၁။ ______

ဦး[illegible]

ကျိုက်ထီးရိုးစေတီတော်ဂေါပကအဖွဲ့

၂။ ______

အတွင်းရေးမှူး

ကျိုက်ထီးရိုးဂေါပကအဖွဲ့

၃။ ______

ဘဏ္ဍာရေးမှူး

ကျိုက်ထီးရိုးစေတီတော်ဂေါပကအဖွဲ့

# A B M COMPANY LIMITED

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် – ၀၂၅/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရိစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ဧကပေါ်တွင် ကျိုက်ထီးရိုး ဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံ သားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ဤဟိုတယ်လုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ခြင်းဖြင့် ဟိုတယ်အခန်းငှားရမ်းခြင်းမှ နိုင်ငံခြားဝင်ငွေများ ရရှိစေခြင်း၊ နိုင်ငံတော်အတွက်အခွန်ဘဏ္ဍာများရရှိစေခြင်း၊ ပြည်တွင်းအလုပ်အကိုင်အခွင့်အလမ်းများပေါ်ထွန်းစေခြင်း၊ နိုင်ငံ တော်အတွင်း ခရီးသွားလာရေးလုပ်ငန်း (Tourism) တိုးတက်အောင်မြင်စေခြင်းတို့အပြင် ဈေးကွက်စီးပွားရေးစနစ်တို့ကို တိုးမြှင့်အထောက်အကူဖြစ်စေနိုင်သည့် လုပ်ငန်းဖြစ်ပါသဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပထမ(၅)နှစ်အတွက် ခွင့်ပြုပေးပါရန် လျှောက်ထားတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဒေါ်ခင်သီနွယ်)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
Mountain Top Hotel
(A B M Company Limited)

မိတ္တူကို – ရုံးလက်ခံ

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

# *A B M COMPANY LIMITED*

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် – ၀၂၆/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ ဟိုတယ်ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုများအား တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရိစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ဧကပေါ်တွင် ကျိုက်ထီးရိုးဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် ဟိုတယ်တွင် အလုပ်လုပ်ကိုင်နေကြသည့် ဟိုတယ်ဝန်ထမ်းများအတွက် သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးတို့အတွက် အောက်ဖော်ပြပါအတိုင်း စီစဉ်ဆောင်ရွက်ထားရှိမည်ဖြစ်ပါကြောင်း အသိပေးတင်ပြအပ်ပါသည်။

(၁) ဟိုတယ်ဝန်ထမ်းများအတွက် အိပ်ဆောင်များစီစဉ်ထားရှိပေးပါမည်။
(၂) ဟိုတယ်ဝန်ထမ်းများအတွက် နံနက်စာ၊ နေ့လည်စာ၊ ညစာ ထမင်း(၃)နပ်လုံးစီစဉ်ပေးပါမည်။
(၃) ဟိုတယ်ဝန်ထမ်းများ နားနေချိန်တွင် သက်တောင့်သက်သာရှိစေရန် နားနေခန်းပြုလုပ်ထားပေးပါမည်။
(၄) ဟိုတယ်လုပ်ငန်းသို့ စတင်ဝင်ရောက်လာသူများအတွက် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းဆိုင်ရာသင်တန်းများအား ဟိုတယ်၏အစီအစဉ်ဖြင့် သင်တန်းပို့ချပေးပါမည်။
(၅) ဟိုတယ်တွင် ရေးဦးသူနာပြုသေတ္တာ စီစဉ်ထားရှိပါမည်။ နာမကျန်းသူများနှင့်ထိခိုက်ဒါဏ်ရာရရှိသူများအား လူမှုဖူလုံရေးဆေးခန်းသို့စေလွှတ်၍ ဆေးဝါးကုသမှုခံယူပါမည်။ လူမှုဖူလုံရေးထည့်ဝင်ငွေများအားလည်း အလုပ်ရှင်အပိုင်းရော၊ အလုပ်သမားအပိုင်းပါ ထည့်ဝင်ပါမည်။

လေးစားစွာဖြင့်

(ဒေါ်ခင်သီနွယ်)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
Mountain Top Hotel
(A B M Company Limited)

မိတ္တူကို – ရုံးလက်ခံ

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

# A B M COMPANY LIMITED

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် – ၁၂၇/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုနှင့်ပတ်သက်၍ ရှင်းလင်းတင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရိစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ဧကပေါ်တွင် ကျိုက်ထီးရိုးဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ Mountain Top Hotel သည် နိုင်ငံတော်မှလျှပ်စစ်ဓါတ်အားကို ရရှိပါက သုံးစွဲမည်ဖြစ်ပြီး၊ လျှပ်စစ်ဓါတ်အား မရရှိသောအချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် သုံးစွဲမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(signature)

(ဒေါ်ခင်သီနွယ်)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
Mountain Top Hotel
(A B M Company Limited)

မိတ္တူကို – ရုံးလက်ခံ

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

# A B M COMPANY LIMITED

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် - ၀၂၈/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်များတင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ကေပေါ်တွင် ကျိုက်ထီးရိုး ဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံ သားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိဘဲ၊ ရေထု၊ မြေထု၊ လေထုတို့ တွင်လည်း ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် မီးဘေးအန္တရာယ်ကင်းရှင်းလုံခြုံမှုရှိစေရန် စီမံဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၃။ မြေအသုံးပြုမှုအတွက် နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည် ဟု ဝန်ခံကတိပြုပါသည်။

၄။ ဟိုတယ်တွင် Stage Show၊ Model Show နှင့် Fashion Show များပြုလုပ်ခဲ့သော် အမျိုးသားယဉ်ကျေးမှုနှင့် ပတ်သက်၍ ထိန်းသိမ်းသွားနိုင်ရန် သက်ဆိုင်ရာအဖွဲ့အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(ဒေါ်ခင်သီနွယ်)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
Mountain Top Hotel
(A B M Company Limited)

မိတ္တူကို - ရုံးလက်ခံ

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

# *A B M COMPANY LIMITED*

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် – ၁၂၉/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားပိုင်ဖြစ်ကြောင်း ကတိခံဝန်ချက်။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ဧကပေါ်တွင် ကျိုက်ထီးရိုးဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ဤကုမ္ပဏီသည် မြန်မာနိုင်ငံသားအမျိုးသမီး(၃)ဦးဖြင့် ဖွဲ့စည်းတည်ထောင်ထားသောကုမ္ပဏီဖြစ်ပါသည်။ ကုမ္ပဏီတွင် မည်သည့်နိုင်ငံခြားသားမျှ ပိုင်ဆိုင်မှုမပါရှိကြောင်းနှင့် ဖြစ်ပေါ်လာမည့်ကိစ္စအဝဝကို တာဝန်ယူမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(signature)

(ဒေါ်ခင်သီနွယ်)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
Mountain Top Hotel
(A B M Company Limited)

မိတ္တူကို – ရုံးလက်ခံ

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

# *A B M COMPANY LIMITED*

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် – ၀၃၀/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ ဝန်ထမ်းများ၏ ဝင်ငွေခွန်ကိစ္စနှင့်ပတ်သက်၍ ဝန်ခံကတိပြုချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရိစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ဧကပေါ်တွင် ကျိုက်ထီးရိုး ဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ Mountain Top Hotel တွင် တာဝန်ထမ်းဆောင်နေသောဝန်ထမ်းများ၏ လုပ်ခလစာ တစ်နှစ်ရငွေ ကျပ်သိန်းနှစ်ဆယ်အထက်ရရှိသော ဝန်ထမ်းများ၏ဝင်ငွေခွန်ကို သတ်မှတ်နှုန်းထားများအတိုင်း ပေးဆောင်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(ဒေါ်ခင်သီနွယ်)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
Mountain Top Hotel
(A B M Company Limited)

မိတ္တူကို – ရုံးလက်ခံ

---

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

# A B M COMPANY LIMITED

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် - ၀၃၁/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ အမျိုးသားယဉ်ကျေးမှုနှင့်ပတ်သက်၍ ဝန်ခံကတိပြုချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရိစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ဧကပေါ်တွင် ကျိုက်ထီးရိုးဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများလုပ်ဆောင်ရာတွင် Promotion လုပ်ငန်း ကိစ္စရပ်အတွက်လည်းကောင်း၊ ဟိုတယ်တွင် Stage Show၊ Model Show နှင့် Fashion Show များ ပြုလုပ်လျှင်လည်းကောင်း၊ အခြားဟိုတယ်လုပ်ငန်းဆိုင်ရာပွဲများ ကျင်းပရာတွင်လည်းကောင်း၊ အမျိုးသားယဉ်ကျေးမှုနှင့်ပတ်သက်၍ ထိန်းသိမ်းသွားနိုင်ရန် သက်ဆိုင်ရာအဖွဲ့အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(ဒေါ်ခင်သီနွယ်)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
Mountain Top Hotel
(A B M Company Limited)

မိတ္တူကို - ရုံးလက်ခံ

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

# A B M COMPANY LIMITED

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် – ၀၃၂/ABM/၂၀၁၅
ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ဧကပေါ်တွင် ကျိုက်ထီးရိုးဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ Mountain Top Hotel ၏ မီးဘေးကာကွယ်ရေးကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ကြိုတင်ကာကွယ်ရေးအစီအစဉ်များ ရေးဆွဲထားပါသည်။

(၁) ဟိုတယ်ဝင်းအတွင်းအရေးပေါ်သုံးစွဲနိုင်ရန် သင့်တင့်သောအကျယ်အဝန်းရှိသည့် ရေကန်များထားရှိပါမည်။
(၂) အဆောင်တိုင်းတွင် မီးသတ်ဘူး တစ်ဘူးစီထားရှိပါမည်။
(၃) သဲပုံး၊ ရေပုံး၊ မီးချိတ်၊ မီးကဒ်နှင့် အချက်ပေးသံချောင်းတို့အား စနစ်တကျထားရှိပါမည်။
(၄) ဟိုတယ်မှထွက်ရှိလာသော အမှိုက်စိုများကို မြေအောက်ကန်ဆောက်၍လည်းကောင်း၊ အမှိုက်ခြောက်များကို မီးရှို့စက်ထားရှိ၍လည်းကောင်း စနစ်တကျ လုပ်ဆောင်ပါမည်။
(၅) မီးသတ်ဦးစီးဌာနမှပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအားအလှည့်ကျစေလွှတ်၍ တက်ရောက်စေပါမည်။

လေးစားစွာဖြင့်

(ဒေါ်ခင်သီနွယ်)
ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ
Mountain Top Hotel
(A B M Company Limited)

မိတ္တူကို – ရုံးလက်ခံ

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

# *A B M COMPANY LIMITED*

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

စာအမှတ် – ၀၃၃/ABM/၂၀၁၅

ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ ဧပြီလ(၇)ရက်

အကြောင်းအရာ။ ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒနှင့်အညီ အကောင်အထည်ဖော်လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ A B M Company Limited သည် ကျိုက်ထီးရိုးတောရိုင်းတိရိစ္ဆာန်ဘေးမဲ့တော၊ သဘာဝနယ်မြေအတွင်းရှိ မြေ(၁.၉)ဧကပေါ်တွင် ကျိုက်ထီးရိုးဘုရားသို့လာရောက်ကြသော ပြည်တွင်း၊ပြည်ပမှ ဘုရားဖူးဧည့်သည်များတည်းခိုနိုင်ရန်အတွက် Mountain Top Hotel အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းလုပ်ဆောင်ရာတွင် စွန့်ပစ်ပစ္စည်းများ၊ ရေဆိုးများ စသည်တို့ကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လေထုနှင့်ရေထု ညစ်ညမ်းမှုမရှိစေရန်နှင့် ပတ်ဝန်းကျင်ရှိလူတို့၏ ကျန်းမာရေးမထိခိုက်စေရေးတို့အတွက် အကာအကွယ်ပေးဆောင်ရွက်ရမည့် နည်းလမ်းများ၊ စွန့်ပစ်ပစ္စည်းအမျိုးမျိုးတို့အတွက် ဆောင်ရွက်ရမည့်နည်းလမ်းများအတိုင်း ထည့်သွင်းဆောင်ရွက်သွားပါမည်။ သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု ရှိ/မရှိ ကြိုတင်လေ့လာဆန်းစစ်မှု (Initial Environmental Examination - IEE) ကို ဆောင်ရွက်ပြီး၊ တွေ့ရှိချက်များအပေါ်အခြေခံလျက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environment Management Plan - EMP) ကို ရေးဆွဲတင်ပြ၍ အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ နိုင်ငံတော်မှပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေတို့နှင့်အညီ အကောင်အထည်ဖော် လိုက်နာဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(ဒေါ်ခင်သီနွယ်)

ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ

Mountain Top Hotel

(A B M Company Limited)

မိတ္တူကို – ရုံးလက်ခံ

72, U Wisara Road, Room 203, Kamayut Township, Yangon, MYANMAR
Tel : (951) 502 479, 536 553 Fax : (951) 536 085 E-mail : grtt@goldenrock.com.mm

## အပိုဒ်-၁၁ အငှားချထားသူ၏ တာဝန်ဝတ္တရားများ

၁၁-၁ အငှားချထားသူသည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(က) အငှားချထားသည့်မြေအတွက် မြေခွန်ကိုပေးဆောင်ရမည်။

(ခ) လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာအဖွဲ့အစည်းများထံမှရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) အငှားချထားခြင်းခံရသူက မြေငှားရမ်းလုပ်ကိုင်ခြင်းအတွက် နိုင်ငံတော်အဖွဲ့အစည်းများသို့ပေးချေရမည့် အခွန်အခများအားလုံးကို မြန်မာကျပ်ငွေဖြင့် ပေးချေနိုင်ရန်အတွက် အငှားချထားသူက ကူညီဆောင်ရွက်ပေးရမည်။

(ဃ) အငှားချထားသည့်မြေတွင် လိုအပ်သော တည်ဆောက်မွမ်းမံပြင်ဆင်မှုများ ပြုလုပ်နိုင်ရန် အငှားချထားခြင်းခံရသူအား ခွင့်ပြုပေးရမည်။

(င) ဤစာချုပ်သက်တမ်းကာလအတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသောမြေကို ငြိမ်းချမ်းစွာနှင့် အေးဆေးစွာ အသုံးပြုနိုင်ခွင့်ရပြီး၊ အငှားချထားသူ၏ သဘောအရ (သို့မဟုတ်) အငှားချထားသူ၏ ယုံကြည်အပ်နှံသူတို့၏ ပါဝင်ပတ်သက်မှုဖြင့် ဝင်ရောက်နှောက်ယှက်ခြင်းမရှိစေရ။

## အပိုဒ်-၁၂ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ

၁၂-၁ "အငှားချထားခြင်းခံရသူ" သည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) အငှားချထားခြင်းခံရသူသည် အဆိုပါငှားရမ်းမြေပေါ်တွင် အခန်း(၁၀၀)ခန်းပါ အဆင့်မြင့်ဟိုတယ်ကို မြန်မာငွေ ကျပ်သန်း(၅၀၀)ဖြင့် မတည်ရင်းနှီးမြှုပ်နှံတည်ဆောက်ပြီး၊ ဟိုတယ်လုပ်ငန်းကိုလုပ်ကိုင်ရမည်။

(ခ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်နေ့မှစတင်၍ မြေပြုပြင်ကာလ(၆)လနှင့် ဟိုတယ်တည်ဆောက်ရေးကာလ(၃၆)လ၊ စုစုပေါင်း(၄၂)လအတွင်း ပြီးစီးအောင်တည်ဆောက်ဖွင့်လှစ်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါအဆောက်အဦးအကွက်ချပုံစံ (Site Plan)၊ အဆောက်အဦးအမျိုးအစားအလိုက် အရေအတွက်နှင့်

ပုံစံ (Drawing) များအတိုင်းသာ ဆောက်လုပ်သွားမည်ဖြစ်ပြီး၊ ပြောင်းလဲပြင်ဆင် ဆောက်လုပ်လိုပါက အငှားချထားသူထံ ကြိုတင်အသိပေးတင်ပြရမည်။ အငှားချထားသူ၏ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်၏ အပိုဒ်(၉)နှင့်အပိုဒ်(၁၀) တွင် ဖော်ပြထားသည့် မြေအသုံးပြုမှုပရီမီယံ (Land Use Premium) နှင့် နှစ်စဉ်ငှားရမ်းခငွေများ (Annual Land Lease Rental) ကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့်ကာလများအတွင်း အငှားချထားသူသို့ မပျက်မကွက် ပေးသွင်းရမည်။

(င) ခွင့်ပြုမိန့်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသော မြေနှင့်အဆောက်အဦးများကို စာချုပ်သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား ထပ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းပေးခြင်းနှင့် လုပ်ငန်းလွှဲပြောင်းပေးခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(စ) ဤသဘောတူစာချုပ်ကို တည်ဆဲဥပဒေအရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ရမည်။

(ဆ) နိုင်ငံတော်ကချမှတ်သော မူဝါဒများကိုလိုက်နာ၍ တရားဥပဒေနှင့်ငြိစွန်းသည့် လုပ်ငန်းများကို လုပ်ဆောင်ခြင်းမှ ရှောင်ကြဉ်ရမည်။

(ဇ) အငှားချထားစဉ်အတွင်း မြေခွန်မှအပ လုပ်ငန်းနှင့်သက်ဆိုင်သည့် အခြားအခွန်အခများကို သက်ဆိုင်ရာဌာနများသို့ အချိန်မှန်မှန်ပေးဆောင်ရမည်။

(ဈ) ဟိုတယ်နှင့်တည်းခိုခန်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ရရှိရန်အတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ခွင့်ပြုမိန့်လိုင်စင်ရယူရမည်။

(ည) အငှားချထားခြင်းခံရသူသည် နိုင်ငံတော်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်ကိုလိုက်နာရမည့်အပြင် လောင်းကစားခြင်းလုပ်ငန်းနှင့် မြန်မာ့ယဉ်ကျေးမှုနှင့် ဆီလျော်မှုမရှိသည့် ဖျော်ဖြေရေးလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်မှု မရှိရပါ။

(ဋ) အငှားချထားခြင်းခံရသူသည် တောရိုင်းတိရစ္ဆာန်နှင့် သဘာဝအပင်များကာကွယ်ရေးနှင့် သဘာဝနယ်မြေများထိန်းသိမ်းရေးဥပဒေအား လိုက်နာဆောင်ရွက်ရမည်။

**အပိုဒ်-၁၃ အာမခံထားရှိခြင်း**

၁၃-၁ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများဆောင်ရွက်ရာတွင် တည်ဆောက်မည့် အဆောက်အဦးအတွက် မီးအာမခံနှင့် အခြားလုပ်ငန်းလိုအပ်ချက်အရ လိုအပ်သောအာမခံများကို မြန်မာ့အာမခံဥပဒေနှင့်အညီ ထားရှိရမည်။

**အပိုဒ်-၁၄ ဓာတ်သတ္တု အရင်းအမြစ်များ**

၁၄-၁ ဤသဘောတူစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းသည့်မြေနှင့် အဆောက်အဦး တည်ရှိရာ မြေပေါ်မြေအောက်မှ ဓာတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းယဉ်ကျေးမှုပစ္စည်းများ၊ သဘာဝသမိုင်းနှင့်သိပ္ပံဆိုင်ရာ အရေးပါသော အရာဝတ္ထုများ၊ သဘာဝသယံဇာတများကို မမျှော်လင့်ဘဲတွေ့ရှိလျှင် "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ"သို့ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါ ပစ္စည်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရက ပိုင်ဆိုင်ရမည်ဖြစ်ပြီး၊ အငှားချထားခြင်း ခံရသူသည် သက်ဆိုင်ရာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများသို့ လွှဲပြောင်းတင်ပြရမည်။ ထို့အပြင် အငှားချထားခံရသူ၏ အကျိုးစီးပွားကိုမထိခိုက်စေဘဲ၊ အထက်ပါပစ္စည်းများကို နိုင်ငံတော်အစိုးရက လွတ်လပ်စွာ တူးဖော်ရယူပိုင်ခွင့်ရှိစေရမည်။

**အပိုဒ်-၁၅ စာချုပ်ရပ်စဲခြင်း**

၁၅-၁ စာချုပ်ဝင်များသည် အောက်ဖော်ပြပါ အကြောင်းခြင်းရာ တစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ရပ်စဲခွင့်ရှိစေရမည်-

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) စာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်စည်းကမ်းတစ်ရပ်ရပ်ကို ဆောင်ရွက်ရန်ပျက်ကွက်သဖြင့် တစ်ဖက်စာချုပ်ဝင်က တရားဝင်စာဖြင့်အကြောင်းကြားသော်လည်း၊ ရက်ပေါင်း(၃၀)အတွင်း လိုက်နာခြင်းမပြုခြင်း၊

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်ပြီး၊ အဆိုပါဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည် ဖော်နိုင်စွမ်း မရှိခြင်း၊

၁၅-၂ ဤသဘောတူစာချုပ်ကို ရပ်စဲလိုကြောင်း နှစ်ဦးနှစ်ဖက်သဘောဆန္ဒဖြင့် တင်ပြလာလျှင် စာချုပ်ရပ်စဲခွင့်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

**အပိုဒ်-၁၆ မြေသို့ပြန်လည်ဝင်ရောက်ခြင်း**

၁၆-၁ အငှားချထားခြင်းခံရသူက စာချုပ်ပါစည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် အကြောင်းမဲ့ပျက်ကွက်လျှင်သော်လည်းကောင်း၊ အငှားချထားသူက ချအပ်သောနို့တစ်စာပါကာလများအတွင်း မဆောင်ရွက်မှု (သို့မဟုတ်) မလိုက်နာမှုကို ပြင်ဆင်ပေးရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ အငှားချထားသူသည် ဤစာချုပ်ပါ အငှားချထားသော မြေပေါ်သို့ ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်မည်ဟူ၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်သဘောတူညီကြပါသည်။ ဤသို့စာချုပ်ရပ်စဲခြင်း၊ မြေသို့ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရှိမည့်အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

**အပိုဒ်-၁၇ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၇-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါဖြစ်စေ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့မှစ၍ မြေပေါ်ရှိ မူလအငှားချထားစဉ်ကမပါရှိသော အဆောက်အဦးများနှင့် ရွှေ့ပြောင်းနိုင်သောပစ္စည်းများအားလုံးကို အငှားချထားခြင်းခံရသူ၏ အစီအစဉ်ဖြင့် (၆)လအတွင်း ရှင်းလင်းဖယ်ရှားပြီး၊ အငှားချထားသည့် မြေ(၁.၉)ဧကကို ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။

၁၇-၂ အငှားချထားခြင်းခံရသူသည် အထက်အပိုဒ်(၁၇-၁) ပါသက်မှတ်ကာလထက် ကျော်လွန်သည့်တိုင် ပြန်လည်အပ်နှံခြင်းမပြုနိုင်ပါက ကျော်လွန်သည့်ကာလအတွက် တစ်ရက်လျှင် ဒဏ်ကြေးငွေ ကျပ် ၁၀၀,၀၀၀ (ကျပ်တစ်သိန်းတိတိ)နှုန်းဖြင့် ပေးဆောင်ရမည်။

**အပိုဒ်-၁၈ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

၁၈-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊စစ်ဖြစ်ခြင်း၊ သပိတ်

မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်း မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့် မရှိစေရ။

၁၈-၂ ထို့သို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက၊ ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ ရက်(၃၀)အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ပြောက်ပြီး၊ မြေအသုံးပြုခွင့်တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအတွက် ငှားရမ်းခကိုသက်သာခွင့်ပြုနိုင်သည်။

## အပိုဒ်-၁၉ အငြင်းပွားမှုများဖြေရှင်းခြင်း

၁၉-၁ ဤစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရရှိပါက ထိုအငြင်းပွားမှုကို တည်ဆဲတရားဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာတရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

## အပိုဒ်-၂၀ ဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း၊ ညှိနှိုင်းခြင်း

၂၀-၁ လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့်အခြေအနေများ (သို့မဟုတ်) စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ၊ ပြင်ဆင်၊ဖြည့်စွက်ရန်လိုအပ်လာလျှင် နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆွေးနွေးမှုများပြုလုပ်ပြီး၊ စာချုပ်ကို နှစ်ဦးသဘောတူ ပြင်ဆင်၊ဖြည့်စွက်ချုပ်ဆိုနိုင်သည်။ အဆိုပါ ပြင်ဆင်၊ဖြည့်စွက်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောတူမှသာလျှင် အတည်ဖြစ်စေရမည်။ ထိုပြင်ဆင်၊ ဖြည့်စွက်သည့် နောက်ဆက်တွဲစာချုပ်ကို ဤစာချုပ်ကြီး၏ တစိတ်တဒေသအဖြစ် မှတ်ယူရပါမည်။

## အပိုဒ်-၂၁ လျှို့ဝှက်ချက်

၂၁-၁ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် နှစ်ဦးနှစ်ဖက်စလုံးသည် အရေးကြီးသော စာရွက်စာတမ်းများ၊ သတင်းအချက်အလက်များကို အခြားတတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးခြင်းမပြုရ။ သို့ရာတွင် ကုမ္ပဏီ၏ အကျိုးစီးပွားအလို့ငှာ ဒါရိုက်တာအဖွဲ့၏ သဘောတူဆုံးဖြတ်ချက်၊ အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် အခြားအဖွဲ့အစည်းသို့ လွှဲပြောင်းပေးနိုင်ခွင့်ရှိစေရမည်။

## အပိုဒ်-၂၂ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၂၂-၁ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်ရမည့် နေရာဒေသ၏ ပတ်ဝန်းကျင် နေရာများကို တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ ကောင်းစွာထိန်းသိမ်းကာကွယ် စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထုနှင့်မြေထုများ ညစ်ညမ်း ခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းများအား ကာကွယ် ထိန်းချုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သောစက်များ တပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုကိုမဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေး စွန့်ပစ်သည့် အစိတ်အပိုင်းများကို အန္တရာယ်ကင်းရှင်းစေရေးဆိုင်ရာ လိုအပ်သော အကာအကွယ်များ၊ အစီအစဉ်များကို တည်ဆဲတရားဥပဒေနှင့်အညီ ဆောင်ရွက်ထားရှိ ရမည်။

## အပိုဒ်-၂၃ စာပေးစာယူပြုလုပ်ရန်ကိစ္စ

၂၃-၁ နို့တစ်စာများ (သို့မဟုတ်) အခြားအချက်အလက် အကြောင်းကြားချက်များကို မြန်မာ ဘာသာဖြင့်ဖြစ်စေ၊ အင်္ဂလိပ်ဘာသာဖြင့်ဖြစ်စေ ရေးသားပြီး၊ စာတိုက်မှတ်ပုံတင်ချောစာ ဖြင့်ဖြစ်စေ၊ တဲလက်(စ်)ဖြင့်ဖြစ်စေ၊ ဖက်(စ်)ဖြင့်ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာ ဆက်သွယ် ရေးနည်းစနစ်ဖြင့်ဖြစ်စေ၊ သက်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည်။ ဆက် သွယ်ရန်လိပ်စာမှာ ဤစာချုပ်တွင်ဖော်ပြပါရှိသော အောက်ဖော်ပြပါ လိပ်စာအတိုင်း ဖြစ်သည်။

(က) "အငှားချထားသူ"အတွက်

- (၁) အမည် - ဒေါက်တာညီညီကျော်
- (၂) ရာထူး - ညွှန်ကြားရေးမှူးချုပ်
- (၃) လိပ်စာ - ရုံးအမှတ်(၃၉)၊ နေပြည်တော်
- (၄) ဖုန်းအမှတ် - (၀၆၇) ၄၀၅၀၁၅
- (၅) ဖက်(စ်)အမှတ်- (၀၆၇) ၄၀၅၄၂၇
- (၆) E.mail - dg.fd@mptmail.net.mm

(ခ) "အငှားချထားခြင်းခံရသူ"အတွက်

- (၁) အမည် - ဒေါ်ခင်သီနွယ်
- (၂) ရာထူး - မန်နေးဂျင်းဒါရိုက်တာ

(၃) လိပ်စာ - အမှတ်(၇၂)၊ ဦးဝိစာရလမ်း၊ အခန်း(၂၀၃)၊
ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၄) ဖုန်းအမှတ် - (၀၁) ၅၂၇ ၃၇၉

(၅) ဖက်(စ်)အမှတ်- (၀၁) ၅၃၆ ၀၈၅

(၆) E-mail - grtt@goldenrock.com.mm

၂၃-၂ ယခုကဲ့သို့စာရွက်စာတမ်းများကို ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြားတစ်ဖက်မှ လက်ခံရရှိကြောင်း အထောက်အထားတစ်စုံတစ်ရာရရှိပြီးမှသာ ပေးပို့ခြင်းကို အတည်ပြုနိုင်သည်။ အကယ်၍ လိပ်စာအပြောင်းအလဲရှိပါက စာဖြင့်အခြားတစ်ဖက်သို့ ရေးသားအကြောင်းကြားရမည်။

**အပိုဒ်-၂၄ ဘဏ်အာမခံငွေ**

၂၄-၁ အငှားချထားခြင်းခံရသူမှ လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် တစ်နှစ်အတွက် ငှားရမ်းခဖြစ်သော ကျပ် ၁၈၀,၀၀၀/- (ကျပ် တစ်သိန်း၊ ကိုးသောင်းတိတိ)ကို အငှားချထားသူ၏ နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းအမှတ် MD-010613 တွင် ဘဏ်အာမခံထားရှိပေးရမည်။ အဆိုပါဘဏ်အာမခံငွေကို ဤစာချုပ်လက်မှတ်ရေးထိုးပြီးနောက် ရက်ပေါင်း(၃၀)အတွင်း တင်သွင်းရမည်။ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလပြီးဆုံးသည့်အချိန်တွင် ဘဏ်အာမခံငွေကို ပြန်လည်ထုတ်ယူနိုင်ပါသည်။

၂၄-၂ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းတစ်ရပ်ရပ်ကို ချိုးဖောက်ပါက အငှားချထားသူမှ အထက်အပိုဒ် (၂၄-၁)ပါအာမခံငွေကို သိမ်းယူခွင့်ရှိသည်။

**အပိုဒ်-၂၅ လုပ်ငန်းများလွှဲပြောင်းပေးအပ်ခြင်း**

၂၅-၁ အငှားချထားသောကာလအတွင်း အငှားချထားခြင်းခံရသူသည် မိမိ၏အခွင့်အရေးများ၊ လုပ်ပိုင်ခွင့်များကို အခြားပုဂ္ဂိုလ်၊ အဖွဲ့အစည်းများအား လွှဲပြောင်းပေးအပ်လိုပါက "အငှားချထားသူ" ထံ ကြိုတင်အသိပေးအကြောင်းကြားရမည်။

၂၅-၂ "အငှားချထားသူ"၏ သဘောတူခွင့်ပြုချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရမည်။

**အပိုဒ်-၂၆ အထွေထွေ**

၂၆-၁ ဤသဘောတူစာချုပ်နှင့်အတူ ပူတွဲဖော်ပြထားသည့် မြေပုံ၊ မြေရာဇဝင်၊ စာရွက်စာတမ်း၊ အဆောက်အဦးပုံစံများ၊ အထောက်အထားများ စသည့်နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ် မှတ်ယူရမည်။

၂၆-၂ ဤသဘောတူစာချုပ်ကို မိတ္တူနှစ်စောင်တွင် လက်မှတ်ရေးထိုးပြီး၊ စာချုပ်အသီးသီးသည် ဥပဒေအရ တူညီမှုတစွာတရားဝင်လျက် စာချုပ်ဝင်တစ်ဦးစီအတွက် မူရင်းတစ်စောင်အဖြစ် သတ်မှတ်ရမည်။

ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦးစလုံး၏ တရားဝင်ကိုယ်စားလှယ်များမှ ကိုယ်တိုင်ဖတ်ရှုနားလည်ကြပြီးဖြစ်၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်၌ အထက်ဖော်ပြထားသည့် ၂၀၁၅ခုနှစ်၊ -------လ( ) ရက်နေ့တွင် အောက်ဖော်ပြပါ အသိသက်သေများ၏ ရှေ့မှောက်တွင် မိမိ၏ရုံးတံဆိပ်များ အသီးသီးခပ်နှိပ်လျက် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| | |
|---|---|
| **"အငှားချထားသူ" (ကိုယ်စား)** | **"အငှားချထားခြင်းခံရသူ" (ကိုယ်စား)** |
| | |
| ဒေါက်တာညီညီကျော် | ဒေါ်ခင်သီနွယ် |
| (ညွှန်ကြားရေးမှူးချုပ်) | (မန်းနေဂျင်းဒါရိုက်တာ) |

<u>**အသိသက်သေများ**</u>

| | | | |
|---|---|---|---|
| အငှားချထားသူ၏ အသိသက်သေ | | အငှားချထားခြင်းခံရသူ၏ အသိသက်သေ | |
| (၁) | | (၂) | |
| အမည် | --------------------- | အမည် | --------------------- |
| ရာထူး | --------------------- | ရာထူး | --------------------- |
| လိပ်စာ | --------------------- | မှတ်ပုံတင် | --------------------- |
| | | လိပ်စာ | --------------------- |

နောက်ဆက်တွဲ (က)

## ကျိုက်ထီးရိုးဘေးမဲ့တောဧရိယာအတွင်း
## Mountain Top Hotel ၏ (၁.၉)ဧက မြေနေရာ ကွင်းမြေပုံကြမ်း




**ရည်ညွှန်းချက်**

ကျိုက်ထီးရိုးဘုရားရင်ပြင်တော် တောင်တက်ကားလမ်း

ကွင်းမြေပုံ (၁. ၉)ဧက

ကျိုက်ထီးရိုးဘေးမဲ့တော ဧရိယာအတွင်း Mountain Top Hotel ၏

( ၁.၉ )ဧက မြေနေရာနယ်နိမိတ်လားရာ ဖော်ပြချက်

မြောက်ဘက်။ ကျိုက်ထီးရိုးဘေးမဲ့တောအတွင်း ဆံတော်ရှင် ကျိုက်ထီးရိုးစေတီတော် တောင်တက်ကားလမ်းအရှေ့ဘက် ၊ ဇုန်ဝင်ကြေးကောက်ခံရေးရုံး၏ တောင်ဘက်စပ်ရှိ G.P.S အညွှန်းအရ မြောက်လတ္တီတွင် ၁၇°၂၈′၃၆.၀၀″ နှင့် အရှေ့လောင်ဂျီတွင် ၉၇°၀၆′၀၆.၀၀″ အမှတ်(A)မှ ရှေ့ရှုဘယ်ရင် ၉၀° ဖြင့် ၂၀ ပေ အကွာ အမှတ်(B)ထိ။ ထိုမှရှေ့ရှုဘယ်ရင် ၃၀° ဖြင့် ၉၀ ပေ အကွာ အမှတ်(C)အထိ၊ ထိုမှရှေ့ရှုဘယ်ရင် ၉၀° ဖြင့် ၁၂၅ ပေ အကွာ အမှတ် (D)အထိ။

အရှေ့ဘက်။ ထိုမှ ရှေ့ရှုဘယ်ရင် ၁၇၅° ဖြင့် ၃၇၀ ပေ အကွာ အမှတ်(E)အထိ။

တောင်ဘက်။ ထိုမှ ရှေ့ရှုဘယ်ရင် ၂၂၈° ဖြင့် ၉၆ ပေ အကွာအမှတ် (F) အထိ၊ ထိုမှ ရှေ့ရှုဘယ်ရင် ၁၉၀° ဖြင့် ၈၀ ပေ အကွာအမှတ်(G)အထိ၊ ထိုမှရှေ့ရှု ဘယ်ရင် ၃၀၀° ဖြင့် ၁၀၀ ပေ အကွာအမှတ်(H)အထိ၊ ထိုမှ ရှေ့ရှု ဘယ်ရင် ၃၃၀° ဖြင့် ၁၀၀ ပေအကွာအမှတ် (J)အထိ။

အနောက်ဘက်။ ထိုမှ ရှေ့ရှုဘယ်ရင် ၃၆၀° ဖြင့် ၁၈၀ ပေ အကွာ မူလစတင်ရာအမှတ် (A) အထိ။

ကျိုက်ထီးရိုးဘေးမဲ့တောဧရိယာအတွင်း Mountain Top Hotel ၏

(၁.၉)ဧက မြေနေရာ မြေတိုင်းမှတ်စု

| No. | Station | Foreword | Distance | N-Latitute | E-Longitide | Remark |
|---|---|---|---|---|---|---|
| 1 | A to B | 90° | 20 ft | 17°28'36.00" | 97°06'06.00" | |
| 2 | B to C | 30° | 90 ft | 17°28'36.00" | 97°06'06.06" | |
| 3 | C to D | 90° | 125 ft | 17°28'36.57" | 97°06'06.46" | |
| 4 | D to E | 175° | 370 ft | 17°28'37.35" | 97°06'07.68" | |
| 5 | E to F | 228° | 96 ft | 17°28'34.73" | 97°06'09.17" | |
| 6 | F to G | 190° | 80 ft | 17°28'33.57" | 97°06'07.88" | |
| 7 | G to H | 300° | 100 ft | 17°28'32.97" | 97°06'07.68" | |
| 8 | H to I | 330° | 100 ft | 17°28'33.38" | 97°06'07.08" | |
| 9 | I to A | 360° | 180 ft | 17°28'33.92" | 97°06'06.59" | (1.9) ACs |

နောက်ဆက်တွဲ (ဂ)

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၃၀(ခ)(၃)/(၂၄၅၆/၂၀၁၂)
ရက်စွဲ ၂၀၁၂ ခုနှစ်၊ မေလ ၂၉ ရက်

အကြောင်းအရာ ။ ကြိုးဝိုင်းသစ်တောအတွင်းမှ ထုတ်နုတ်ခွင့်ပြုပေးနိုင်ပါရန် လျှောက်ထားခြင်းကိစ္စ

ရည် ညွှန်း ချက် ။ သစ်တောဦးစီးဌာန၏ ၄-၅-၂၀၁၂ ရက်စွဲပါစာအမှတ်- စီမံကိန်း/ စ-၁၉ (ခ) / (၄၇၀၃ / ၂၀၁၂)

၂၀၁၂ ခုနှစ်၊ မေလ ၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၇/၂၀၁၂)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ ကျိုက်ထီးရိုးသဘာဝကြိုးဝိုင်းအတွင်း ကျရောက်သည့် ABM Company Limited ပိုင် Mountain Top Hotel ဆောက်လုပ်ထားသော မြေဧရိယာ (၁.၉၃)ဧကသည် ဌာနပိုင်စိုက်ခင်း/လုပ်ငန်းများအတွင်း ကျရောက်မှုမရှိခြင်း၊ သက်ဆိုင်ရာဝန်ကြီးဌာန၏ လုပ်ငန်းခွင့်ပြုမိန့်ရရှိထားခြင်း၊ ဟိုတယ်အဆောက်အဦများ အခိုင်အမာဆောက်လုပ်ထားခြင်း၊ ဘုရားဖူးဧည့်သည်များအတွက် အကျိုးရှိခြင်းတို့ကြောင့် သစ်တောဦးစီးဌာန၏ လုပ်ထုံးလုပ်နည်းနှင့်အညီ နှစ်(၃၀) မြေငှားစာချုပ် ချုပ်ဆိုဆောင်ရွက်ခွင့်ပြုကြောင်း အကြောင်းကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အဖွဲ့ မှူး )

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ရုံးအမှတ် (၃၂) နေပြည်တော်

စာအမှတ်၊ ရက-၈(ဂ)၀၀၁/၂၀၁၄(၀၀၄၆၀၀)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇွန် လ ၂ ရက်

သို့

အုပ်ချုပ်မှု ဒါရိုက်တာ
**အေဘီအမ် ကုမ္ပဏီ လီမိတက်**
တိုက်အမှတ်(၇၂)၊ အခန်းအမှတ်(၂၀၃)၊ ဦးဝိစာရလမ်းနှင့်
ချင်းတွင်းလမ်းဒေါင့်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **ကုမ္ပဏီမှတ်ပုံတင် လက်မှတ် သက်တမ်းတိုးခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ ကုမ္ပဏီ၏(၂-၆-၂၀၁၄)ရက်စွဲပါစာ

၁။ အထက်ရည်ညွှန်းပါစာဖြင့် **အေဘီအမ် ကုမ္ပဏီ လီမိတက်**မှ သက်တမ်း တိုးမြှင့်ပေးပါရန် တင်ပြလာခြင်းကို (၂-၆-၂၀၁၄) ရက်နေ့တွင် ခွင့်ပြုပြီး ဖြစ်ပါသဖြင့်(၃၀-၆-၂၀၁၉) ရက်နေ့ အထိ (၅)နှစ် သက်တမ်း တိုးမြှင့်ခွင့် ပြုလိုက်သည်။

၂။ သို့ပါ၍ **အေဘီအမ် ကုမ္ပဏီ လီမိတက်** မှ ကျပ် ၅၀၀,၀၀၀/- (ကျပ် ငါးသိန်းတိတိ)ပေးသွင်းပြီး ဖြစ်ပါ၍ ရုံးတွင်း မှတ်ပုံတင် အမှတ် - **၁၀၅၆/ ၁၉၉၃-၁၉၉၄(၇-၃-၁၉၉၄)** ဖြင့် သက်တမ်းတိုး မှတ်ပုံတင်လက်မှတ်ကို ထုတ်ပေးလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( မြင့်လွင်၊ ဒုတိယညွှန်ကြားရေးမှူး )

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီး စီမံကိန်းဦးစီးရုံး
ရုံးလက်ခံ
မျှောစာတွဲ

သက်တမ်းတိုး

002856

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် .....၁၀၅၆[illegible]..../၁၉၉၃–၁၉၉၄

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ .......အေဘီအမ် ကုမ္ပဏီ လီမိတက်..........

..................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် .၁၉၉၄.နှစ်၊ ...မတ်......လ၊ ..၇...ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား

၂၀၁၄..နှစ်၊ ...ဇွန်.......လ၊ ၂....ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မျိုးမင်း ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ...............1056[illegible]..... of 1993 - 1994

I hereby certify that the tenure of ........A.B.M. COMPANY LIMITED......

..........................................................incorporated under the

Myanmar Companies Act on ..................7th MARCH, 1994..............................

is renewed with effected from ..................2nd JUNE, 2014..............................

For Director General
(Myo Min, Director)
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဒေါ်ခင်သီနွယ် (၈/တတက(နိုင်)၀၀၇၇၇၂၇)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ တိုက်အမှတ်(၇၂)၊ အခန်းအမှတ်(၂၀၃)၊ ဦးဝိစာရလမ်းနှင့် ချင်းတွင်းလမ်းဒေါင့်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၅၀၂၄၇၉၊၅၃၆၅၅၃

(ဃ) ဒါရိုက်တာများ အမည်စာရင်း– ၁။ ဒေါ်လွင်မာဦး
၁၀/သဖရ(နိုင်)၀၄၇၄၇၅

၂။ ဒေါ်အေးအေးသင်း
၉/ပမန(နိုင်)၀၀၀၆၅၆

မှတ်ချက် ။

(၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁-၇-၂၀၁၄ )မှ ( ၃၀-၆-၂၀၁၉ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မြင့်လွင်၊ ဒုတိယညွှန်ကြားရေးမှူး )

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော
အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

## အေ ဘီ အမ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများ

# THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

MEMORANDUM OF ASSOCIATION

AND

ARTICLES OF ASSOCIATION

OF

A B M COMPANY LIMITED

အေဘီအမ်ကွန်ပြူတာ ကုမ္ပဏီလီမိတက်၏ (၁၄-၉-၉၇)နေ့တွင် ကျင်းပပြုလုပ်သည့်အထူး အစည်းအဝေးဆုံးဖြတ်ချက်နှင့် ရင်းနှီးမြှပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန (ကုမ္ပဏီများမှတ်ပုံတင်ရုံး)၏ (၁၃-၅-၉၈)နေ့စွဲပါစာအမှတ် ရက -၇(၈) ၀၀၁/၉၈(၀၂၄) တို့အရ မူလအမည် ဖြစ်သည့် အေဘီအမ်ကွန်ပြူတာကုမ္ပဏီလီမိတက် "ABM COMPUTER COMPANY LIMITED" မှ အေဘီအမ်ကုမ္ပဏီလီမိတက် "ABM COMPANY LIMITED" သို့ အမည် ပြောင်းလဲခြင်းဖြစ် ပါသည်။

ကုမ္ပဏီ၏ အခြားသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ အင်္ဂလိပ်/မြန်မာ ဘာသာများ ပွင်လည်း ယိုအပ်သလိုပြင်ဆင်ပြီးဖြစ်ပါသည်။

PRAMOD
MANAGING DIRECTOR
ABM COMPUTER CO., LTD.

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော
အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# အေ ဘီ အမ် ကွန်ပျူတာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများ

**THE MYANMAR COMPANIES ACT**

PRIVATE COMPANY LIMITED BY SHARES

MEMORANDUM OF ASSOCIATION

AND

ARTICLES OF ASSOCIATION

OF

# A B M COMPUTER COMPANY LIMITED

အေဘီအမ်ကွန်ပြူတာ ကုမ္ပဏီလီမိတက်၏ (၁၄-၉-၉၇)နေ့တွင် ကျင်းပပြုလုပ်သည့်အထူး အစည်းအဝေးဆုံးဖြတ်ချက်နှင့် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန (ကုမ္ပဏီများမှတ်ပုံတင်ရုံး)၏ (၁၃-၅-၉၈)နေ့စွဲပါစာအမှတ် ရက -ဂ(၈) ၀၁၁/၉၈(၀၂၄) တို့အရ မူလအမည် ဖြစ်သည့် အေဘီအမ်ကွန်ပြူတာကုမ္ပဏီလီမိတက် "ABM COMPUTER COMPANY LIMITED" မှ အေဘီအမ်ကုမ္ပဏီလီမိတက် "ABM COMPANY LIMITED" သို့ အမည် ပြောင်းလဲခြင်းဖြစ် ပါသည်။

ကုမ္ပဏီ၏ အခြားသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ အင်္ဂလိပ်/မြန်မာ ဘာသာများ တွင်လည်း လိုအပ်သလိုပြင်ဆင်ပြီးဖြစ်ပါသည်။

PRAMOD
MANAGING DIRECTOR
ABM COMPUTER CO., LTD.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ
အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# အေ ဘီ အမ် ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

၁။ ကုမ္ပဏီ၏အမည်မှာ အေ ဘီ အမ် ကုမ္ပဏီ လီမိတတ်ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်ရုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် တည်ရှိစေရမည်။

၃။ ကုမ္ပဏီကို အောက်ပါလုပ်ငန်းများဆောင်ရွက်ရန် ရည်ရွယ်ချက်ဖြင့် တည်ထောင်ပါသည်။

(၁) ကွန်ပျူတာအသုံးချရေးနှင့် ကွန်ပျူတာနည်းပညာနှင့်စပ်လျဉ်းသည့်သင်တန်းများ ဖွင့်လှစ်ဆောင်ရွက်ရန်နှင့် ကွန်ပျူတာနှင့် ကွန်ပျူတာအရန်ပစ္စည်းများ၊ ကွန်ပျူတာနှင့် ပတ်သက်သည့်ပစ္စည်းများ၊ ပြုပြင်ခြင်း၊ မွမ်း မံထိန်းသိမ်းခြင်း စသည့် ဝန်ဆောင်မှု လုပ်ငန်းများကိုဆောင်ရွက်ရန်။

(၂) မည်သည့်အစိုးရလုပ်ငန်း၊ အာဏာပိုင်၊ စီးပွားရေးအဖွဲ့ အစည်း၊ လူပုဂ္ဂိုလ်တို့နှင့်ညှိနှိုင်း ဆက်သွယ်ပြီး၊ ကွန်ပျူတာနည်းစနစ်များ လေ့လာခြင်း၊ ကွန်ပျူတာတပ်ဆင်အသုံးပြု မှုများ ဖွံ့ဖြိုးတိုးတက်စေခြင်းနှင့် ကွန်ပျူတာနှင့်ပတ်သက်သည့် ဝန်ဆောင်မှု လုပ်ငန်း များဆောင်ရွက်ရန်။

(၃) ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်းရှိ မည်သည့် ရုံး၊ စီးပွားရေးအဖွဲ့အစည်း သို့မ ဟုတ် လူပုဂ္ဂိုလ်အတွက်အသုံးဝင်မည့် ကွန်ပျူတာအစီအစဉ်များကို တီထွင်ထုတ်လုပ် ပေးခြင်း၊ ရောင်းဝယ်ဖောက်ကားခြင်း၊ နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်း စသောလုပ်ငန်း များကိုဆောင်ရွက်သည့် ဗဟိုဌာနအဖြစ်ဆောင်ရွက်ရန်။

(၄) ပြည်တွင်းပြည်ပရှိ ကွန်ပျူတာလေ့ကျင့်သင်ကြားရေးကျောင်းများနှင့် ဆက်သွယ်ပေါင်း စပ်ဆောင်ရွက်ရန်။

(၅) ကုမ္ပဏီအတွက် အမြတ်အစွန်းရမည်ဟု ယူဆပါက အမျိုးမျိုးသော ကုန်ပစ္စည်းများနှင့် စပ်လျဉ်း၍ သွင်းကုန်လုပ်ငန်းရှင်၊ ထုတ်ကုန်လုပ်ငန်းရှင်၊ အထွေထွေကုန်သည် လုပ်ငန်းများ ဆောင်ရွက်ရန်။

(၆) ရာသီအလိုက် လယ်ယာထွက်ကုန်သီးနှံနှင့် ဥယျာဉ်ခြံမြေထွက် ပစ္စည်းများ၊ စိုက်ပျိုးခြင်း၊ ထုတ် လုပ်ခြင်း၊ မွမ်းမံခြင်း၊ စည်သွတ်ခြင်း၊ ဝယ်ယူခြင်းနှင့် ပြည်တွင်းပြည်ပ ဖြန့်ဖြူးရောင်းချရန်။

အေဘီအမ်ကွန်ပြူတာ ကုမ္ပဏီလီမိတက်၏ (၁၄-၉-၉၇)နေ့တွင် ကျင်းပပြုလုပ်သည့်အထူးအစည်းအဝေးဆုံးဖြတ်ချက်နှင့် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန (ကုမ္ပဏီများမှတ်ပုံတင်ရုံး)၏ (၁၃-၅-၉၈)နေ့စွဲပါစာအမှတ် ရက -ဂ(၈) ၀၀၁/၉၈(၀၂၅၄) တို့အရ မူလအမည် ဖြစ်သည့် အေဘီအမ်ကွန်ပြူတာကုမ္ပဏီလီမိတက် "ABM COMPUTER COMPANY LIMITED" မှ အေဘီအမ်ကုမ္ပဏီလီမိတက် "ABM COMPANY LIMITED" သို့ အမည် ပြောင်းလဲခြင်းဖြစ် ပါသည်။

ကုမ္ပဏီ၏ အခြားသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ အင်္ဂလိပ်/မြန်မာ ဘာသာများတွင်လည်း လိုအပ်သလိုပြင်ဆင်ပြီးဖြစ်ပါသည်။

**PRAMOD**
**MANAGING DIRECTOR**
[illegible]

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ
အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# အေ ဘီ အမ် ကွန်ပျူတာ ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

၁။ ကုမ္ပဏီ၏အမည်မှာ အေ ဘီ အမ် ကွန်ပျူတာ ကုမ္ပဏီ လီမိတက်ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်ရုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် တည်ရှိစေရမည်။

၃။ ကုမ္ပဏီကို အောက်ပါလုပ်ငန်းများဆောင်ရွက်ရန် ရည်ရွယ်ချက်ဖြင့် တည်ထောင်ပါသည်။

(၁) ကွန်ပျူတာအသုံးချရေးနှင့် ကွန်ပျူတာနည်းပညာနှင့်စပ်လျဉ်းသည့်သင်တန်းများ ဖွင့်လှစ်ဆောင်ရွက်ရန်နှင့် ကွန်ပျူတာနှင့် ကွန်ပျူတာအရန်ပစ္စည်းများ၊ ကွန်ပျူတာနှင့် ပတ်သက်သည့်ပစ္စည်းများ၊ ပြုပြင်ခြင်း၊ မွမ်း မံထိန်းသိမ်းခြင်း စသည့် ဝန်ဆောင်မှု လုပ်ငန်းများကိုဆောင်ရွက်ရန်။

(၂) မည်သည့်အစိုးရလုပ်ငန်း၊ အာဏာပိုင်၊ စီးပွားရေးအဖွဲ့ အစည်း၊ လူပုဂ္ဂိုလ်တို့နှင့်ညှိနှိုင်း ဆက်သွယ်ပြီး၊ ကွန်ပျူတာနည်းစနစ်များ လေ့လာခြင်း၊ ကွန်ပျူတာတပ်ဆင်အသုံးပြု မှုများ ဖွံ့ဖြိုးတိုးတက်စေခြင်းနှင့် ကွန်ပျူတာနှင့်ပတ်သက်သည့် ဝန်ဆောင်မှု လုပ်ငန်း များဆောင်ရွက်ရန်။

(၃) ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်းရှိ မည်သည့် ရုံး၊ စီးပွားရေးအဖွဲ့အစည်း သို့မ ဟုတ် လူပုဂ္ဂိုလ်အတွက်အသုံးဝင်မည့် ကွန်ပျူတာအစီအစဉ်များကို တီထွင်ထုတ်လုပ် ပေးခြင်း၊ ရောင်းဝယ်ဖောက်ကားခြင်း၊ နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်း စသောလုပ်ငန်း များကိုဆောင်ရွက်သည့် ဗဟိုဌာနအဖြစ်ဆောင်ရွက်ရန်။

(၄) ပြည်တွင်းပြည်ပရှိ ကွန်ပျူတာလေ့ကျင့်သင်ကြားရေးကျောင်းများနှင့် ဆက်သွယ်ပေါင်း စပ်ဆောင်ရွက်ရန်။

(၅) ကုမ္ပဏီအတွက် အမြတ်အစွန်းရမည်ဟု ယူဆပါက အမျိုးမျိုးသော ကုန်ပစ္စည်းများနှင့် စပ်လျဉ်း၍ သွင်းကုန်လုပ်ငန်းရှင်၊ ထုတ်ကုန်လုပ်ငန်းရှင်၊ အထွေထွေကုန်သည် လုပ်ငန်းများ ဆောင်ရွက်ရန်။

(၆) ရာသီအလိုက် လယ်ယာထွက်ကုန်သီးနှံနှင့် ဥယျာဉ်ခြံမြေထွက် ပစ္စည်းများ၊ စိုက်ပျိုးခြင်း၊ ထုတ် လုပ်ခြင်း၊ မွမ်းမံခြင်း၊ စည်သွတ်ခြင်း၊ ဝယ်ယူခြင်းနှင့် ပြည်တွင်းပြည်ပ ဖြန့်ဖြူးရောင်းချရန်။

(၇) သစ်တောထွက်ပစ္စည်းများ ( ကျွန်းသစ်မပါ ) ထုတ်လုပ်ပြီး၊ ပြည်တွင်းပြည်ပ ရောင်းချရန်။

(၈) စက်မှုလုပ်ငန်းသုံး ပစ္စည်းများ၊ စားသုံးကုန်နှင့် လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်သည့် စက်ရုံသစ်များ တည်ထောင်ပြီး၊ ပြည်တွင်းပြည်ပ ဖြန့်ဖြူးရောင်းချရန်။

(၉) ကုမ္ပဏီအတွက် အမြတ်ရရှိမည် ဟုယူဆပါက ပြည်တွင်းပြည်ပရှိ ကုမ္ပဏီများ၏ကိုယ်စား ကော်မရှင်စားကိုယ်စားလှယ်၊ စီးပွားရေးအကျိုးဆောင် အဖြစ်ဆောင် ရွက်ရန်။

(၁၀) ဟိုတယ်၊ စားသောက်ဆိုင်နှင့် တည်းခိုခန်းများ ဆိုင်ရာ လုပ်ငန်းများကို သက်ဆိုင်ရာ ဌာန၏ ခွင့်ပြုချက်ဖြင့် လုပ်ကိုင် ဆောင်ရွက်ရန်။

(၁၁) ကုမ္ပဏီက လုပ်ကိုင်နိုင်စွမ်းအရ၊ ကျွမ်းကျင်သည့် ဘာသာရပ်များနှင့် ပတ်သက်၍ အတိုင်ပင်ခံ၊ အကြံပေး လုပ်ငန်းများ၊ ဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး လုပ်ကိုင်ရန်။

(၁၂) သစ်တောထွက် ပစ္စည်းများ (ကျွန်းသစ်မပါ) ဝယ်ယူခြင်း၊ စက်မှုလုပ်ငန်းများ တည်ထောင်ပြီး၊ သစ်တောထွက် ပစ္စည်း အမျိုးမျိုး ထုတ်လုပ်ပြီး ပြည်တွင်းပြည်ပ ရောင်းချရန်။

(၁၃) အစိုးရ စက်ရုံများအား ငှားရမ်း၊ မွမ်းမံ၊ လည်ပတ်ပြီး ကုန်ပစ္စည်းများ ထုတ်လုပ်၍ ပြည်တွင်းပြည်ပ ဖြန့်ဖြူးရောင်းချရန်။

(၁၄) ပြည်ထောင်စု မြန်မာနိုင်ငံတော် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံ အတွင်း ရင်းနှီးမြှုပ်နှံလိုသည့်၊ သို့မဟုတ်၊ စီးပွားရေးလုပ်ငန်းများ လာရောက်လုပ်ကိုင်လိုသည့် မည်သည့် နိုင်ငံခြားစီးပွားရေး အဖွဲ့အစည်းနှင့်မဆို ဖက်စပ်လုပ်ကိုင် ဆောင်ရွက်ရန်။

(၁၅) ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်းနှင့် ပြည်ပရှိမည်သည့် အစိုးရလုပ်ငန်း သို့မဟုတ်၊ ဖက်စပ်အဖွဲ့အစည်း၊ သို့မဟုတ်၊ သမဝါယမအသင်းအဖွဲ့၊ သို့မဟုတ်၊ အစိုးရကဲ့သို့သော အဖွဲ့အစည်း၊ သို့မဟုတ်၊ ပုဂ္ဂလိက၊ လုပ်ငန်းရှင်များနှင့် မဆို စီးပွားရေးလုပ်ငန်းများ စီစဉ် ဆောင်ရွက်ရန်။

(၁၆) ကုမ္ပဏီအတွက် ငွေလိုပါက သင့်တော်သော အတိုးနှုန်းထားဖြင့်၊ အစိုးရအသိအမှတ်ပြုသောဘဏ်များနှင့် ငွေကြေးအဖွဲ့အစည်း များထံမှငွေချေးယူရန်။

(၁၇) ကုမ္ပဏီမှ သင့်လျော်မည်ဟု ယူဆပါက အခြားကုမ္ပဏီများ၊ စီးပွားရေးအဖွဲ့များ၊ ပုဂ္ဂလိက များသို့ ကြိုတင်ငွေပေးခြင်း၊ ကုန်အကြွေး ရောင်းခြင်းများကို ပြုလုပ်ဆောင်ရွက်ရန်။

(၁၈) ချက်ချင်း အသုံးပြုရန် မလိုသေးသော ကုမ္ပဏီ၏ ငွေများကို အခါအားလျော်စွာ ဒါရိုက်တာများ အဖွဲ့မှသတ်မှတ် ပြဋ္ဌာန်းထားသောနည်းလမ်းအတိုင်း ရင်းနှီးမြှုပ်နှံရန်နှင့် လုပ်ငန်းဆောင်ရွက်ရန်။

(၁၉) ကုမ္ပဏီ၏ အလုပ်တာဝန်များကို လုပ်ကိုင်ဆောင်ရွက်သူ လူပုဂ္ဂိုလ်၊ သို့မဟုတ်၊ ကုမ္ပဏီ တစ်ခုခုအား ထောက်ပံ့ငွေ၊ ဆုကြေးနှင့် ဂုဏ်ပြုကြေးငွေ ပေးရန်။

(၂၀) ရွေ့ပြောင်းနိုင်သည့် ပစ္စည်းများ၊ မရွေ့ပြောင်းနိုင်သည့် ပစ္စည်းများ အထူးသဖြင့် မြေ၊ အဆောက်အအုံ၊ စက်ပစ္စည်းများ၊ ယာဉ်များ၊ စက်ရုံများ၊ အခွင့်အရေးများ၊ သို့မဟုတ်၊ အခွင့်အလမ်း များကို ကုမ္ပဏီအတွက် သင့်တော်သည့် ဈေးနှုန်းဖြင့် ဝယ်ယူရန်၊ ငှားရန်၊ လဲလှယ်ရန်၊ သို့မဟုတ် အခြားနည်းဖြင့် ရယူရန်။

(၂၁) ကုမ္ပဏီက လက်ရှိပိုင်ဆိုင်သည့် ကုန်ပစ္စည်းများ၊ ပုံသေပိုင်ပစ္စည်းများ၊ အခွင့်အရေးများ၊ အခွင့် အလမ်းများ အားလုံးကို ဖြစ်စေ၊ အချို့တစ်ဝက်ကို ဖြစ်စေ၊ ဆောက်လုပ်ခြင်း၊ မွမ်းမံခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်း၊ ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ ချေးငှားခြင်း၊ လဲလှယ် ခြင်း၊ တိုးတက်အောင် ပြုလုပ်ခြင်း များကို ဆောင်ရွက်ရန်။

(၂၂) ဒါရိုက်တာများက သဘောတူထားပြီး၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တည်ဆဲ ဥပဒေများက ခွင့်ပြုသော မည်သည့်စီးပွားရေး လုပ်ငန်းကိုမဆို လုပ်ဆောင်နိုင်ရန်။

**ခြွင်းချက်။** ။ ဤကုမ္ပဏီသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ဖြစ်စေ၊အခြားမည် သည့် နေရာ၌ဖြစ်စေ၊ အခါအားလျော်စွာ တည်ရှိနေသော ဥပဒေများ၊ အမိန့် ကြော် ငြာစာများ၊ အမိန့်များအရ လုပ်ကိုင်ဆောင်ရွက်ခွင့် ရှိသည်တို့မှအပ၊ အခြားလုပ် ငန်းများကိုဆောင်ရွက်ခြင်း မပြုပါ။ ထို့အပြင် ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း အခါအားလျော်စွာတည်ရှိနေသော ဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက သတ်မှတ်ပြဌာန်းသည့် ခွင့်ပြုချက်နှင့်အတည်ပြုချက် အရသာလုပ်ငန်း များကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ ခွင့်ပြုထားသည့် မ,တည်ငွေရင်းသည် ကျပ်၁၀,၀၀၀,၀၀၀/- (ကျပ်တစ်ဆယ် သန်း တိတိ) ဖြစ်ပြီး၊ အစုရှယ်ယာတစ်စုလျှင်ကျပ် ၁၀,၀၀၀/- (ကျပ် တစ်သောင်းတိတိ) တန်အစုပေါင်း (၁,၀၀၀) ခွဲထားသည်။ ကုမ္ပဏီ၏ မ,တည်ငွေရင်းကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဌာန်းချက်များနှင့် အညီတိုးမြှင့်နိုင်ခွင့် လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိသည်။

အောက်တွင် အမည်၊နေရပ်လိပ်စာနှင့်အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင်လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စိုကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့ စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မ,တည်ငွေရင်းတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူ အမည်၊ နေရပ်လိပ်စာနှင့် အကြောင်းအရာ | နိုင်ငံသား၊ အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးငွေထွန်း<br>အမှတ်(၁၄၅)၊ ၄၅ လမ်း၊<br>ဗိုလ်တထောင်မြို့နယ်၊<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>ဘီဂျီ<br>၀၃၂၆၈၂ | | |
| ၂။ | ဦးမြင့်စိုး<br>အမှတ်(၂၇)၊ သံလမ်း၊<br>လှိုင်မြို့နယ်<br>ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/လမန<br>(နိုင်)<br>၀၅၃၉၃၂ | | |

ရန်ကုန်မြို့။ နေ့စွဲ။ ၁၉၉၄ ခုနှစ်၊ ဒီဇင်ဘာ လ ၂၉ ရက်။
အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ထိန်လင်း
ဘီကွမ်း၊ ဘီအယ်လ်၊ အာရ်အေ၊ ဒီအက်ဖ်အမ်
မှတ်ပုံတင်စာရင်းကိုင်၊ စာရင်းစစ်နှင့်
ဘဏ္ဍာရေးအကြံပေးပုဂ္ဂိုလ်
၆၁၅ အာရ်၊ ပြည်လမ်း၊ ကမာရွတ်၊ ရန်ကုန်မြို့

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ
အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# အေ ဘီ အမ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

ပဏာမ

၁။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ၏ ပထမဇယားပုံစံ (က)တွင် ပါရှိသည့် စည်းမျဉ်း ဥပဒေများအနက် ဖယ်ထုတ်ထားသော၊ သို့မဟုတ်၊ ပြောင်းလဲထားသော၊ သို့မဟုတ်၊ အောက်ဖော်ပြပါ စည်းမျဉ်းများနှင့် မကိုက်ညီသောအပိုင်း သို့မဟုတ်၊ ကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်သည်ဟူသော အချက်နှင့် မညီမညွတ်ဖြစ်သည့် အပိုင်းများမှအပ၊ ဤကုမ္ပဏီနှင့်သက်ဆိုင်စေရမည်။ သို့ရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇(၂)တွင် ပြဋ္ဌာန်းထားသော မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အမြဲသက်ဆိုင်စေရမည်ဟု မှတ်ယူရမည်။

အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ကုမ္ပဏီသည်၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၂(၁၃)အရ၊ အစုရှယ်ယာဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသည့် အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ ဖြစ်သည်။
သို့ဖြစ်၍-

(၁) အများပြည်သူတို့သို့ ကုမ္ပဏီ၏ အစုရှယ်ယာများ၊ သို့မဟုတ်၊ ဒီဘင်ချာ ငွေချေးစာချုပ်များ စသည့်တို့အား ထည့်ဝင်ကြရန် ဖိတ်ခေါ်ခြင်း မပြုရ။

(၂) ၄င်းကုမ္ပဏီ၏ အစုရှယ်ယာရှင် များသည်(၂) ဦးထက်မနည်း၊ ငါးဆယ်ထက် မများစေရ။ (ကုမ္ပဏီဝန် ထမ်းမပါ) လူနှစ်ဦးဖြစ်စေ၊ အများဖြစ်စေ အစုရှယ်ယာ တစ်စုကို တွဲဖက်၍ ပိုင်လျှင် အစုရှင်တစ်ဦး အနေနှင့် မှတ်ယူရမည်။

(၃) ကုမ္ပဏီ၏ အစုရှယ်ယာများ၊ ရောင်းချခြင်းနှင့်, လွှဲပြောင်းရန် အခွင့်အရေးကို နောက်ပိုင်း တွင်ဆက်လက် ဖော်ပြထားသော နည်းလမ်းများအရ ကန့်သတ်သည်။

မ,တည် ရင်းနှီးငွေနှင့်, အစုရှယ်ယာများ

၃။ ကုမ္ပဏီ၏ မ,တည်ငွေရင်းသည် ကျပ် ၁၀,၀၀၀,၀၀၀/- (ကျပ် တစ်ဆယ်သန်း တိတိ) ဖြစ်၍ အစုရှယ်ယာ တစ်စုလျှင် ကျပ် ၁၀,၀၀၀/- (ကျပ်တစ်သောင်း တိတိ) ကျစီနှင့် အစုရှယ်ယာပေါင်း ( ၁,၀၀၀) ခွဲထား ပါသည်။ ကုမ္ပဏီ၏ မ,တည်ငွေရင်းကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိ တည်ဆဲဖြစ်နေသော တရားဥပဒ ပြဋ္ဌာန်းချက်များနှင့်အညီ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိသည်။

အေဘီအမ်ကွန်ပြူတာ ကုမ္ပဏီလီမိတက်၏ (၁၄-၉-၉၇)နေ့တွင် ကျင်းပပြုလုပ်သည့်အထူးအစည်းအဝေးဆုံးဖြတ်ချက်နှင့် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန (ကုမ္ပဏီများမှတ်ပုံတင်ရုံး)၏ (၁၃-၅-၉၈)နေ့စွဲပါစာအမှတ် ရက -ဂ(၈) ၀၀၁/၉၈(၀၅၂၄) တို့အရ မူလအမည် ဖြစ်သည့် အေဘီအမ်ကွန်ပြူတာကုမ္ပဏီလီမိတက် "ABM COMPUTER COMPANY LIMITED" မှ အေဘီအမ်ကုမ္ပဏီလီမိတက် "ABM COMPANY LIMITED" သို့ အမည် ပြောင်းလဲခြင်းဖြစ် ပါသည်။

ကုမ္ပဏီ၏ အခြားသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ အင်္ဂလိပ်/မြန်မာ ဘာသာများတွင်လည်း လိုအပ်သလိုပြင်ဆင်ပြီးဖြစ်ပါသည်။

PRAMOD

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ
အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# အေ ဘီ အမ် ကွန်ပျူတာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

### ပဏာမ

၁။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ၏ ပထမဇယားပုံစံ (က)တွင် ပါရှိသည့် စည်းမျဉ်း ဥပဒေများအနက် ဖယ်ထုတ်ထားသော၊ သို့မဟုတ်၊ ပြောင်းလဲထားသော၊ သို့မဟုတ်၊ အောက်ဖော်ပြပါစည်းမျဉ်းများနှင့် မကိုက်ညီသောအပိုင်း သို့မဟုတ်၊ ကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်သည်ဟူသော အချက်နှင့် မညီမညွတ်ဖြစ်သည့် အပိုင်းများမှအပ၊ ဤကုမ္ပဏီနှင့်သက်ဆိုင်စေရမည်။ သို့ရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇(၂)တွင် ပြဋ္ဌာန်းထားသော မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အမြဲသက်ဆိုင်စေရမည်ဟု မှတ်ယူရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ကုမ္ပဏီသည်၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၂(၁၃)အရ၊ အစုရှယ်ယာဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသည့် အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ ဖြစ်သည်။
သို့ဖြစ်၍–

(၁) အများပြည်သူတို့သို့ ကုမ္ပဏီ၏ အစုရှယ်ယာများ၊ သို့မဟုတ်၊ ဒိဘင်ချာငွေချေးစာချုပ်များ စသည့်တို့အား ထည့်ဝင်ကြရန် ဖိတ်ခေါ်ခြင်း မပြုရ။

(၂) ၄င်းကုမ္ပဏီ၏ အစုရှယ်ယာရှင် များသည်(၂) ဦးထက်မနည်း၊ ငါးဆယ်ထက်မများစေရ။ (ကုမ္ပဏီဝန် ထမ်းမပါ) လူနှစ်ဦးဖြစ်စေ၊ အများဖြစ်စေ အစုရှယ်ယာတစ်စုကို တွဲဖက်၍ ပိုင်လျှင် အစုရှင်တစ်ဦး အနေနှင့် မှတ်ယူရမည်။

(၃) ကုမ္ပဏီ၏ အစုရှယ်ယာများ၊ ရောင်းချခြင်းနှင့် လွှဲပြောင်းရန် အခွင့်အရေးကို နောက်ပိုင်း တွင်ဆက်လက် ဖော်ပြထားသော နည်းလမ်းများအရ ကန့်သတ်သည်။

### မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာများ

၃။ ကုမ္ပဏီ၏ မ,တည်ငွေရင်းသည် ကျပ် ၁၀,၀၀၀,၀၀၀/– (ကျပ် တစ်ဆယ်သန်း တိတိ) ဖြစ်၍ အစုရှယ်ယာ တစ်စုလျှင် ကျပ် ၁၀,၀၀၀/– (ကျပ်တစ်သောင်း တိတိ) ကျစီနှင့် အစုရှယ်ယာပေါင်း ( ၁,၀၀၀) ခွဲထား ပါသည်။ ကုမ္ပဏီ၏ မ,တည်ငွေရင်းကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတည်ဆဲဖြစ်နေသော တရားဥပဒ ပြဋ္ဌာန်းချက်များနှင့်အညီ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိသည်။

၄။ အစုရှယ်ယာအားလုံးသည်၊ ဒါရိုက်တာများ၏ အုပ်ချုပ်မှုအောက်တွင် ရှိစေရမည်။ ဒါရိုက်တာများသည် ၎င်းတို့သင့်တော်သည်ဟု ထင်မြင်သော အချိန်နှင့် စည်းကမ်း သတ်မှတ်ချက်များအတိုင်း၊ မည်သူ့အားမဆို၊ အစုရှယ်ယာများကို ခွဲဝေခြင်း၊ သို့မဟုတ်၊ ရောင်းချခြင်း၊ သို့မဟုတ် အခြားနည်း ရောင်းဝယ်လွှဲပြောင်းခြင်း ပြုလုပ်နိုင်သည်။

**အစုရှယ်ယာ ပိုင်ဆိုင်ခွင့် သက်သေခံလက်မှတ်**

၅။ အစုရှယ်ယာ လက်မှတ်များကို ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် ဒါရိုက်တာနှစ်ဦးက လက်မှတ်ရေးထိုး၍ ကုမ္ပဏီတံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပျက်ခြင်း၊ သို့မဟုတ်၊ ပျက်စီးခြင်း ဖြစ်ပါက ဒါရိုက်တာများက သင့်တော်သည်ဟု ယူဆသော အဖိုးအခနှင့် အခြားသက်သေခံ အထောက်အထား စည်းကမ်းချက်များဖြင့် ပြန်လည် အသစ်ပြုလုပ်ပေးနိုင်သည်။

**အစုရှယ်ယာပေါ်တွင် ငွေများတောင်းခံခြင်း**

၆။ အစုရှင်က ပေးရန်ကျန်သည့် အစုရှယ်ယာတန်ဖိုးကို ပေးသွင်းရန် အတွက် ဒါရိုက်တာများက အခါအား လျော်စွာဆင့်ခေါ်နိုင်ပြီး၊ အစုရှင်များသည် ဆင့်ခေါ်သည့် အကြိမ်တိုင်းအတွက် တန်ဖိုးကို ဒါရိုက်တာများက သတ်မှတ်သည့် အချိန်နှင့်နေရာတွင် သတ်မှတ်သူသို့ ပေးသွင်းရမည်။ ဆင့်ခေါ်မှု တစ်ခုအတွက် အရစ်ကျ ပေးသွင်းစေခြင်း၊ သို့မဟုတ်၊ ပယ်ဖျက်ခြင်း၊ သို့မဟုတ် ရွှေ့ဆိုင်းခြင်း တို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

**အစုရှယ်ယာများကို လွှဲပြောင်းခြင်း**

၇။ လက်ရှိ အစုရှယ်ယာရှင်များအား ကုမ္ပဏီ၏ ဒါရိုက်တာများက ဆုံးဖြတ်ထားသောဈေးဖြင့် ရှယ်ယာလွှဲပြောင်းပေးရန် ဦးစားပေးရမည်။ ဤသို့ ဦးစားမပေးဘဲအပြင်လူများကို အစုရှယ်ယာ မလွှဲပြောင်းစေရ။

၈။ ဒါရိုက်တာအဖွဲ့ ထံမှ ကြိုတင်၍ စာဖြင့်ရေးသားထားသော သဘောတူညီချက် ရရှိသည်မှတစ်ပါး၊ မည်သည့် အစုရှယ်ယာကိုမျှ လွှဲပြောင်းခြင်းမပြုရ။ ဒါရိုက်တာအဖွဲ့သည် အစုရှယ်ယာ လွှဲပြောင်းခြင်းအားအကြောင်း တစ်စုံတစ်ရာ ပြရန်မလို၊ ချုပ်ချယ်မှု လုံးဝကင်းသော သဘောဆန္ဒအလျောက် ငြင်းပယ် ပိုင်ခွင့်ရှိသည်။

**သင်းလုံးကျွတ် အစည်းအဝေးများ**

၉။ ကုမ္ပဏီတည်ထောင်ပြီးသည့်နေ့မှ (၁၈)လအတွင်း သင်းလုံးကျွတ်အစည်းအဝေးကို ခေါ်ယူကျင်းပ ပြုလုပ်ရမည်။ ထို့နောက် သင်းလုံးကျွတ်အစည်းအဝေးမှ ဆုံးဖြတ်သည့်အချိန်နှင့် နေရာတွင် နှစ်စဉ် ပြက္ခဒိန်နှစ် တနှစ်လျှင် အနည်းဆုံးတစ်ကြိမ် ကျင်းပရမည်။ ထို့ပြင် နောက်ဆုံးအစည်းအဝေး ကျင်းပသည့် ကာလနှင့် တစ်ဆယ့်ငါးလထက် ပို၍မခြားစေရ။

၁၀။ အထက်ဖော်ပြပါ သင်းလုံးကျွတ်အစည်းအဝေးကို ပုံမှန်အစည်းအဝေးဟု ခေါ်ဆိုလျက် အားလုံးသော အခြားအစည်းအဝေးတို့ကို အထူးအစည်းအဝေးဟု ခေါ်ဆိုရမည်။

## သင်းလုံးကျွတ် အစည်းအဝေးတွင် ဆောင်ရွက်ရန်အစီအစဉ်

၁၁။ ကုမ္ပဏီသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၁(၂)အရ၊ အထူး အစည်းအဝေး ဆုံးဖြတ်ချက်များအရ အစည်း အဝေးဖိတ်စာကို (၁၄) ရက် ကြိုတင်၍ ပေးပို့ရမည်။ နေရာ၊ နေ့ရက်၊ အချိန်၊ နာရီများကို ဖိတ်စာ၌ဖော်ပြပြီး၊ အထူးကိစ္စဖြစ်ပါက ယေဘုယျသဘာဝ များကို အစည်းအဝေး အစီအစဉ်တွင် ဖော်ပြပြီးမှ ပေးပို့ရမည်။ ဖိတ်ကြားစာ ပေးပို့ရာတွင် မတော်တဆ ပေးပို့ရန် ပျက်ကွက်ခဲ့လျှင်သော်လည်းကောင်း၊ အသင်းဝင်တဦးက အစည်းအဝေးဖိတ်စာကို လက်ခံရရှိခြင်း မရှိခဲ့လျှင်သော်လည်းကောင်း၊ သင်းလုံးကျွတ် အစည်းအဝေး၌ ဆွေးနွေးဆုံးဖြတ်ချက်များကို ပျက်ပြယ်စေခြင်းမရှိစေရ။

၁၂။ အထူးအစည်းအဝေးတွင် လုပ်ဆောင်သော လုပ်ငန်းများကို အထူးကိစ္စတစ်ရပ်ဟု မှတ်ယူရမည်။ ထိုပြင်ပုံမှန် အစည်းအဝေးတွင် လုပ်ဆောင်သည့် လုပ်ငန်းများအနက် အမြတ်ဝေစု ခွဲဝေသည့်ကိစ္စရပ်၊ ငွေစာရင်းများ၊ နှင့်လက်ကျန်ရှင်းတမ်းများ၊ ဒါရိုက်တာများနှင့် စာရင်းစစ်များ၏ ပုံမှန်အစီရင်ခံစာများစဉ်းစားခြင်း၊ ဒါရိုက်တာနှင့် အခြားအရာရှိများနုတ်ထွက် သွားသည့် နေရာများ၌ ပြန်လည်ခန့်ထားခြင်းနှင့် စာရင်းစစ်များ၏ အခကြေးငွေ သတ်မှတ်ခြင်းတို့မှလွဲ၍ ကျန်ကိစ္စများကို အထူးကိစ္စတစ်ရပ်ဟု မှတ်ယူရမည်။

၁၃။ သင်းလုံးကျွတ်အစည်းအဝေး စတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ်အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ အစုရှင်အရေအတွက် (၅၀)ရာခိုင်နှုန်း(အနည်းဆုံးနှစ်ဦး) ကိုယ်တိုင် တက်ရောက်ခြင်းသည် အစည်းအဝေးအထမြောက်ရန် သတ်မှတ်ချက် ဖြစ်သည်။

### အသင်းသားများ၏မဲများ

၁၄။ လက်ထောင် ဆန္ဒမဲ ပေးသည့်အခါတွင် လူကိုယ်တိုင် တက်ရောက်သည့် အသင်းသား အသီးသီးသည် တစ်မဲပေးရမည်။ ဆန္ဒမဲဖြင့် ဆန္ဒပေးသည့် အခါတွင် အသင်းသားတိုင်းသည် အစုရှယ်ယာတစ်ခုအတွက်တစ်မဲ ရရှိစေရမည်။

၁၅။ မဲပေးသည့်အခါတွင် ပူးတွဲပိုင်ဆိုင်သူ မဲပေးပါက အမှတ်စဉ်စောသူက မဲပေးခွင့်ရသည်။ လူပုဂ္ဂိုလ်၊ သို့မဟုတ်၊ ကိုယ်စားမဲပေးသူက မဲပေးခြင်းကိစ္စတွင် ပူးတွဲရှယ်ယာ ပိုင်ဆိုင်သူတို့ထဲတွင် ကုမ္ပဏီ၏ ရှယ်ယာ မှတ်ပုံတင်တွင် မှတ်ပုံတင်ထားသည့် ဦးစားပေးအစီအစဉ်အရ တစ်ဦးတည်းကသာ ကျန်သူများကို ချန်လှပ်၍ မဲပေးခွင့်ရှိသည်။

### ဒါရိုက်တာများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးကြီးက အခြားနည်း ပြဋ္ဌာန်းခြင်း မပြုပါက ဒါရိုက်တာများ၏ ဦးရေမှာ နှစ်ဦးထက် မနည်းရ၊ ငါး ဦးထက် မပိုစေရပါ။ ပထမဒါရိုက်တာများမှာ –

၁။ ဦးငွေထွန်း ၂။ ဦးမြင့်စိုး တို့ဖြစ်ပါသည်။

၁၇။ ဒါရိုက်တာများသည် မိမိတို့၏ ခံစားခွင့်များကို၊ မိမိတို့ကိုယ်တိုင် ဆုံးဖြတ်နိုင်သည်။

၁၈။ အများနှင့်မသက်ဆိုင်သော ကုမ္ပဏီဖြစ်သည့်အလျောက် ဒါရိုက်တာများသည် အစုရှယ်ယာ တစ်စုကိုမျှ ပိုင်ဆိုင်ရန်မလိုပေ။

၁၉။ ဒါရိုက်တာအဖွဲ့ဝင်များ မခန့်ထားမီကာလအတွင်းတွင်သင်းဖွဲ့မှတ်တမ်းတွင် လက်မှတ်ရေးထိုးသူ များသည် ပထမဒါရိုက်တာအဖြစ်၊ ဆောင်ရွက်ကြရမည်ဟု မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ အရ မှတ်ယူရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၂၀။ ကုမ္ပဏီ၏အမှုကိစ္စများကို ဒါရိုက်တာများက ကြီးကြပ်ဆောင်ရွက်ရမည်။ ကုမ္ပဏီဖွဲ့စည်း၍မှတ်ပုံ တင်စာရင်းသွင်းရာ၌ ကုန်ကျသည့်စရိတ်များကို ဒါရိုက်တာတို့က ပေးဆောင်၍ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ကဖြစ်စေ၊ တည်ဆဲဖြစ်သည့် တရားဥပဒေအရ ပြောင်းလဲပြင်ဆင်ချက် တစ်စုံတရာနှင့် အညီဖြစ်စေ၊ ဤသင်းဖွဲ့စည်းမျဉ်းများအရဖြစ်စေ၊ ကုမ္ပဏီက သင်းလုံးကျွတ် အစည်းအဝေးကြီးတွင် ဆောင်ရွက်ရန်မလိုသည့် အခွင့်အရေး တစ်ရပ်ရပ်ကို ဆောင်ရွက်ခွင့်ရ ရှိမည်။

၂၁။ ဒါရိုက်တာတို့သည် စီမံအုပ်ချုပ်မှုဒါရိုက်တာ၊ သို့မဟုတ်၊ အထွေထွေမန်နေဂျာ၊ သို့မဟုတ်စီမံ အုပ်ချုပ်မှု ကိုယ်စားလှယ်များ၊ သို့မဟုတ်၊ ၎င်းတို့က သင့်တော်သည်ဟုထင်သည့် ၎င်းတို့၏အဖွဲ့ မှအဖွဲ့ဝင်၊ သို့မဟုတ် အဖွဲ့ဝင်များပါဝင်သည့် ကော်မတီသို့ ၎င်းတို့၏မည်သည့် လုပ်ပိုင်ခွင့်ကိုမဆို လွှဲအပ်နိုင်သည်။ စီမံအုပ်ချုပ်မှုဒါရိုက်တာ၊ သို့မဟုတ်၊ အထွေထွေမန်နေဂျာ၊ သို့မဟုတ်၊ စီမံအုပ်ချုပ် မှုကိုယ်စားလှယ်များ၊ သို့မဟုတ်၊ ထိုသို့ဖွဲ့စည်းထားသည် မည်သည့် ကော်မတီကိုမဆို ဒါရိုက်တာ တို့က အချိန်အခါအားလျော်စွာ ချမှတ်ထားသည့် စည်းကမ်းချက်များ နှင့်အညီ၊ ၎င်းတို့အား လွှဲအပ် သည့်လုပ်ပိုင်ခွင့်များကို အသုံးပြုရာ၌ လိုက်နာပြုလုပ်ရမည်။

၂၂။ ဒါရိုက်တာများသည်၊ အောက်ပါကိစ္စရပ်များအတွက် သတ်မှတ်ထားသည့် စာအုပ်များတွင် အစည်း အဝေး မှတ်တမ်းများ ထားရှိရမည်။

(၁) ဒါရိုက်တာများမှ ခန့်ထားသည့် အရာရှိများ၏ ခန့်ထားမှု၏အားလုံး။
(၂) ဒါရိုက်တာ အစည်းအဝေးတိုင်း၌ တက်ရောက်သည့် ဒါရိုက်တာများ၏အမည်များ။
(၃) ကုမ္ပဏီ အစည်းအဝေးများအားလုံး၊ ဒါရိုက်တာ အစည်းအဝေးများ အားလုံးတွင် ဆုံးဖြတ်ချက်များ၊ ဆောင်ရွက်ချက်များ။

မည်သည့် ဒါရိုက်တာ အစည်းအဝေးတွင်မဆို တက်ရောက်သည့် ဒါရိုက်တာ တစ်ဦးချင်းမှ သတ်မှတ် ထားသည့် စာအုပ်တွင် လက်မှတ်ရေးထိုးရမည်။

၂၃။ ဒါရိုက်တာများသည် ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်း တိုးတက်ဖွံ့ဖြိုးစေရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များ၊ စီးပွားရေး လုပ်ငန်းများ၊ ကုမ္ပဏီများ၊ ဘဏ်များ သို့မဟုတ် ငွေကြေးအဖွဲ့ အစည်းများထံမှမဆို ကုမ္ပဏီအတွက် သို့မဟုတ်ကုမ္ပဏီကိုယ်စား ငွေချေးယူနိုင်ပြီး ယင်းချေး

ငွေများကို ပြန်လည်ပေးဆပ်ရန် အာမခံ အတွက် သင့်တင့်လျောက်ပတ်သည် ဟုထင်မြင်ယူဆသည့် နည်းလမ်းများနှင့်သော်လည်းကောင်း၊ စည်းကမ်းသတ်မှတ်ချက်များနှင့် သော်လည်းကောင်း အဘက်ဘက်မှ ဆောင်ရွက်နိုင်သည်။

## ဒါရိုက်တာများ အလှည့်ကျစီဆောင်ရွက်ခြင်း

၂၄။ ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်အရ၊ သို့မဟုတ်၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆(စ) အရထုတ်ပယ်ခြင်း မခံရသမျှ ဒါရိုက်တာအဖွဲ့သည်၊ နှစ်စဉ်ရာထူးကို ရယူထားနိုင်သည်။

၂၅။ ဒါရိုက်တာများထဲမှ ရှောင်တခင် နေရာလစ်လပ်ခဲ့လျှင် ဒါရိုက်တာများမှ ဖြည့်စွက်ခန့်ထားနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ရန် အစီအစဉ်

၂၆။ ဒါရိုက်တာများသည် လုပ်ငန်းကိစ္စများကို ပြီးပြတ်အောင် စည်းဝေးကျင်းပဆောင်ရွက်ခြင်း၊ ရွှေ့ဆိုင်းခြင်းကိုသင့်သလို လုပ်နိုင်သည်။ အစည်းအဝေးတွင် ပေါ်ပေါက်လာသော ပြဿနာများကို အများစု မဲဖြင့် ဆုံးဖြတ်ရမည်။ မဲရေတူညီနေပါက သဘာပတိမဲဖြင့် ဆုံးဖြတ်ချက်ပေးရမည်။

၂၇။ လုပ်ငန်းကိစ္စအရပ်ရပ်ကို ဆောင်ရွက်ရာတွင် လိုအပ်သော ဒါရိုက်တာ အနည်းဆုံးအရေအတွက်ကို ဒါရိုက်တာ များမှ သတ်မှတ်ထားခြင်း ရှိရမည်။

၂၈။ ဒါရိုက်တာများသည် အစည်းအဝေးတွင် သဘာပတိအားရွေးချယ်တင်မြှောက်လျက် ၎င်း၏ရာထူး သက်တမ်းအား သတ်မှတ်ရမည်။ အစည်းအဝေးတစ်ရပ် ကျင်းပရန် သတ်မှတ်သော အချိန်ကျ ရောက်ပြီး၊ နောက်တစ်ဆယ့်ငါးမိနစ် အတွင်း သဘာပတိမရှိဘဲ ဖြစ်နေလျှင် တက်ရောက်သော ဒါရိုက်တာများမှ တစ်ဦးဦးကို အစည်းအဝေး သဘာပတိအဖြစ် ရွေးချယ်ဆောင်ရွက်နိုင်သည်။

## အမြတ်ခွဲဝေခြင်း

၂၉။ ကုမ္ပဏီသည် သင်းလုံးကျွတ်အစည်းအဝေးကြီး၌ အမြတ်ဝေစုပေးရန် ကြေညာနိုင်သည်။ သို့ရာတွင် ထိုသို့ ကြေညာသည့် အမြတ်ဝေစုသည် ဒါရိုက်တာများ၊ ထောက်ခံထားသည့် ပမာဏထက် မကျော်လွန်စေရ။

၃၀။ သို့ရာတွင် အမြတ်ဝေစုများ ထုတ်ပေးရာ၌ ကုမ္ပဏီ၏တစ်နှစ်အတွက် ရရှိသည့်အမြတ်များ၊ သို့တည်းမဟုတ်၊ ခွဲဝေပေးရန် ယခင်နှစ်မှ ကျန်ရှိခဲ့သော အမြတ်များထဲမှ မဟုတ်လျှင် မည်သည့် အမြတ်ဝေစုကိုမျှ မပေးရ။

## ငွေစာရင်းများ

၃၁။ ဒါရိုက်တာများသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ–၁၃၀ မှ ၁၃၅ တွင်ပြဋ္ဌာန်းထားသည့် ပြဋ္ဌာန်း ချက်များနှင့် အခြားပြင်ဆင်ချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

